(ဃ) လျှောက်ထားသောမြေသည် စီမံကိန်းလုပ်ငန်းများ သာသနာ့မြေ ၊ သစ်တောမြေများနှင့် လွတ်ကင်းမှုရှိပါသည်။

(င) လျှောက်ထားမြေပေါ်တွင် အဆောက်အဦးဆောက်လုပ်ထားခြင်းမရှိပါ။

(စ) လျှောက်ထားသောမြေတွင် ယာမြေ(ဖ)ကေမှာ သီးနှံစိုက်ပျိုး ဖြစ်ထွန်းမှု မရှိသောမြေဖြစ်ပြီး ၊ တောင်ရိုင်းမြေ (၂၁.၁၅)ကေ စုစုပေါင်း(၂၇.၁၅)ကေဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Grand Precious Mine Co;Ltd မှ တစ်ရက်လျှင် ကြိတ်နှိုင်းချိန်(၁၀၀၀) ကြိတ်ဝါးနိုင်သောသကြားစက်ရုံတည်ဆောက်ရန်အတွက် လ/န(၃၉)လျှောက်ထားသောမြေနေရာအား ခရိုင်/မြို့နယ် မြေစာရင်းဦးစီးဌာနမှူး တို့၏ စစ်ဆေးချက် ၊ မူဆယ်မြို့နယ် ကျေးရွာအုပ်စုအညွှန်းပြမြေပုံ ၊ မူဆယ်မြို့နယ် နမ့်အွမ်ကျေးရွာအုပ်စု အုပ်ချုပ်ရေးမှူးတို့၏ ထောက်ခံချက်တို့နှင့်အတူ စိစစ်တင်ပြအပ်ပါသည်။

5.1.2012

( သိန်း ဦး )

တွဲဖက်ပြည်နယ်မြေစာရင်းဦးစီးဌာနမှူး

တွဲဖက်ပြည်နယ်မြေစာရင်းဦးစီးဌာန

ရှမ်းပြည်နယ် (မြောက် ပိုင်း) ၊ လားရှိုးမြို့

မိတ္တူကို

- ခရိုင်မြေစာရင်းဦးစီးဌာနမှူး ၊ မူဆယ်ခရိုင် ၊ မူဆယ်မြို့ ။
- Grand Precious Mine Co;Ltd ။
- ရုံးလက်ခံ။
- မျှောစာတွဲ။

ခရိုင်မြေစာရင်းဦးစီးဌာန
ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်မြို့
စာအမှတ် – ၀၀၃ / မအ – ၂
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ဇန်နဝါရီလ ( ၃ )ရက်

သို့/–
တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာနမှူး
တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာန
ရှမ်းပြည်နယ်(မြောက်ပိုင်း)
လားရှိုးမြို့။

အကြောင်းအရာ ။ ။ **မြေရာဇဝင်စိစစ်တင်ပြပေးရေး။**

ရည်ညွှန်းချက် ။ ။ တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာန၊ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ လားရှိုးမြို့၏ (၁၂.၁၂.၂၀၁၁)ရက်စွဲပါစာအမှတ်–၂၉၈၉/မအ–၇။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ **Grand Precious Mine Co;Ltd** မှရှမ်းပြည်(မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီးရှိ မြေလွတ်/မြေရိုင်း (၅၂.၄၉)ဧကပေါ်တွင် တစ်ရက်လျှင် ကြံတန်ချိန်(၁၀၀၀)ကြိတ်ဝါးနိုင်သောသကြားစက် တည်ဆောက်ရန် လ/န(၃၉) ခွင့်ပြုမိန့် လျှောက်ထားနိုင်ရေးအတွက် မြေစာရင်းပုံစံ (၁၀၅) ရေးဆွဲခွင့် ပြုပါရန် တင်ပြလျှောက်ထားလာခြင်းအပေါ် အဆိုပါမြေနေရာသည် လ/န(၃၉) လျှောက်ထားနိုင်ရေးအတွက် စိုက်ပျိုးမြေများ၊ စီမံကိန်းလုပ်ငန်းများ၊ သာသနာ့မြေ၊ သုသာန်မြေ၊ သစ်တောမြေများနှင့် လွတ်ကင်းမှု ရှိ/မရှိ၊ လုပ်ကွက်များထပ်နေခြင်း ရှိ/မရှိ၊ မြေရာဇဝင်စိစစ်တင်ပြရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာခဲ့ပါသည်။

သို့ဖြစ်ပါ၍ လျှောက်ထားမြေနေရာအား ကွင်းဆင်းစိစစ်ပြီး အောက်ပါအချက်အလက်များနှင့်အတူ ပြန်လည်တင်ပြ အစီရင်ခံအပ်ပါသည်။

(က) လျှောက်ထားမြေ၏ တည်နေရာ(ကွင်းအမှတ်၊ ကွင်းအမည်၊ ဦးပိုင်အမှတ်၊ ဧရိယာဧက) (မြို့နယ်၏ ကျေးရွာအုပ်စုအညွှန်းပြပုံပေါ်တွင် တင်ပြပေးရန်) မြေကွက်၏ အလားအလာလေးရပ်၊ မြေအမျိုးအစား။

(ခ) လျှောက်ထားသူမှ ဦးပိုင်ပေါက်ပိုင်ဆိုင်မှု ရှိ/မရှိ(ပိုင်ဆိုင်မှု၊ လုပ်ကိုင်မှု၊ လက်ငုတ်များ ရှင်းလင်းမှု) ရှိ/မရှိ။

(ဂ) လျှောက်ထားမြေတွင် သီးနှံစိုက်ပျိုးလုပ်ကိုင်ခဲ့မှု ရှိ/မရှိ(ရှိခဲ့ပါက ခုနှစ်အလိုက် သီးနှံအမျိုးအစား၊ စိုက်ပျိုးဧရိယာ)သို့မဟုတ် မြေလပ်အဖြစ်ထားရှိခြင်း ရှိ/မရှိ။

(ဃ) မြေပြင်ပေါ်တွင် အဆောက်အဦးဆောက်လုပ်ထားရှိမှု အခြေအနေ(အဆောက်အဦးအမျိုးအစား၊ အရွယ်အစား၊ ဆောက်လုပ်ခဲ့သည့်ခုနှစ်)

(င) လျှောက်ထားမြေအား လ/န(၃၉)ခွင့်ပြုပေးပါက ပတ်ဝန်းကျင်အား ထိခိုက်စေမှု ရှိ/မရှိ ကျေးရွာအုပ်ချုပ်ရေးမှူး၏ သဘောထား။

(စ) ခရိုင်မြေမှူး၊ မြို့မြေမှူးတို့၏ သဘောထားမှတ်ချက်။

၃/၁/၁၂
(ကျော်စိန်လင်း)
လက်ထောက်ညွှန်ကြားရေးမှူး
ခရိုင်မြေစာရင်းဦးစီးဌာန
မူဆယ်ခရိုင်၊ မူဆယ်မြို့။

မိတ္တူကို –
– ဦးစီးအရာရှိ၊မြို့နယ်မြေစာရင်းဦးစီးဌာန၊မူဆယ်မြို့။
– Grand Precious Mine Co;Ltd
– ရုံးလက်ခံ/ မျှောစာတွဲ။

**ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊မူဆယ်မြို့နယ်၊ Grand Precious Mine Co;Ltd မှ လျှောက်ထားသည့် မြေဧရိယာ(၅၂.၄၉)ဧကရှိ မြေနေရာအား တစ်ရက်လျှင်ကြိတန်ချိန်(၁၀၀၀) ကြိတ်ဝါးနိုင်သော သကြားစက်တည်ဆောက်ရန်အတွက် လ/န (၃၉)အမှတ်တွဲတည်ဆောက်ခွင့်ပြုပါရန် လျှောက်ထားခြင်းအပေါ် ခရိုင်မြေစာရင်းဦးစီးဌာနမှူး၊ မူဆယ်ခရိုင်၏အစီရင်ခံစာ။**

မူဆယ်မြို့နယ်၊မြေစာရင်းဦးစီးဌာန၏(၃၀.၁၂.၂၀၁၁)ရက်စွဲပါစာအမှတ်– ၇၁၇/မအ–၃ အပေါ်အခြေခံ၍ မြေရာဇဝင်ကိုအောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်။

(က) လျှောက်ထားသောမြေသည် မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအုပ်စု၊ကွင်းအမှတ်(ပြင်ပ)၊ ဦးပိုင်အမှတ်– (N-1)၊ ဧရိယာ(၆.၀၀)ဧကရှိယာမြေ၊ ဦးပိုင်အမှတ်– (N-2)၊ ဧရိယာ (၂၁.၁၅)ဧကရှိ တောရိုင်းမြေ၊စုစုပေါင်းဧရိယာ (၂၇.၁၅)ဧကရှိပါသည်။

(ခ) လျှောက်ထားမြေကို ဦးရန်ကွယ်ကျိန်းနှင့် ဦးတွမ်ကျားဆုံးတို့မှ အမည်ပေါက်ပိုင်ဆိုင်ပြီး ၎င်းတို့နှစ်ဦးသည် Grand Precious Mine Co;Ltd မှဒါရိုက်တာများဖြစ်၍ ကုမ္ပဏီကိုယ်စား လုပ်ကိုင်ခြင်းဖြစ်ပါသည်။

(ဂ) လျှောက်ထားမြေတွင် ယခင်နှစ်များက ယာစပါးနှင့်ပြောင်းဖူးစသည့်သီးနှံများစိုက်ပျိုးခဲ့သော်လည်း ဖြစ်ထွန်းအောင်မြင်မှုမရှိသဖြင့် ယခုနှစ်တွင်စိုက်ပျိုးခြင်းမရှိပါ။

(ဃ) မြေပြင်ပေါ်တွင် အဆောက်အဦးဆောက်လုပ်ထားခြင်းမရှိပါ။

(င) လျှောက်ထားသောမြေသည် စီမံကိန်းလုပ်ငန်းများ၊ သာသနာ့မြေ၊ သစ်တောမြေများနှင့်လွတ်ကင်းမှုရှိပါသည်။

(စ) လျှောက်ထားမြေအား လ/န(၃၉) ခွင့်ပြုပေးပါက ပတ်ဝန်းကျင်အား ထိခိုက်စေမှုမရှိပါကြောင်း ကျေးရွာအုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်အားပူးတွဲတင်ပြအပ်ပါသည်။

(ဆ) လျှောက်ထားသောမြေတွင် ယာမြေ (၆.၀၀)ဧကသာပါဝင်ပြီး သီးနှံစိုက်ပျိုးဖြစ်ထွန်းမှုမရှိသောမြေဖြစ်ပြီး (၂၁.၁၅)ဧကမှာ တောရိုင်းမြေဖြစ်သဖြင့် စုစုပေါင်း (၂၇.၁၅)ဧကအား လ/န (၃၉)လျှောက်ထားခွင့်ပြုသင့်ပါကြောင်း မူဆယ်မြို့နယ်မြေစာရင်းဦးစီးမှူး၏ ထောက်ခံချက်များနှင့်အတူ ပူးတွဲထောက်ခံတင်ပြအပ်ပါသည်။

(signature) ၃/၁/၁၂

(ကျော်စိန်လင်း)
လက်ထောက်ညွှန်ကြားရေးမှူး
ခရိုင်မြေစာရင်းဦးစီးဌာန
မူဆယ်ခရိုင်၊ မူဆယ်မြို့။

စာအမှတ် ၀၀၃ /မအ–၂
ရက်စွဲ၊ ၂၀၁၂ခုနှစ်၊ ဇနနဝါရီလ ( ၃ )ရက်

မိတ္တူကို –
– ရုံးလက်ခံ/ မျှောစာတွဲ။

မြို့နယ်မြေစာရင်းဦးစီးဌာန
ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်မြို့။
စာအမှတ် - ၇၁၇ / မအ -၃
ရက်စွဲ ၂၀၁၁ခုနှစ် ဒီဇင်ဘာလ (၃၀)ရက်

သို့

လက်ထောက်ညွှန်ကြားရေးမှူး
ခရိုင်မြေစာရင်းဦးစီးဌာန
မူဆယ်မြို့။

အကြောင်းအရာ။ ။မြေရာဇဝင်စီစစ်တင်ပြပေးရေးကိစ္စ။

ရည်ညွှန်းချက် ။ ။ခရိုင်မြေစာရင်းဦးစီးဌာန၊ မူဆယ်မြို့၏ (၁၆-၁၂-၂၀၁၁)ရက်စွဲပါစာအမှတ်-၈၀၆/ မအ -၂

အထက်အကြောင်းအရာပါကိစ္စနှင့်ပါတ်သက်၍ Grand Precious Mine Co;Ltd မှ မူဆယ်ခရိုင်၊မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီးမြေလွတ်မြေရိုင်း (၅၂. ၄၉)ဧကပေါ်တွင် တစ်ရက်လျှင်ကြိတ်ချိန်(၁၀၀၀)ကြိတ်ဝါးနိုင်သောသကြားစက်တည်ဆောက်ရန် လ/န၃၉ခွင့်ပြုမိန့်လျှောက်ထားနိုင်ရေးအတွက် မြေစာရင်းပုံစံ၁၀၅ရေးဆွဲခွင့်ပြုပါရန် တင်ပြလျှောက်ထားလာခြင်းအပေါ် အဆိုပါမြေနေရာသည် လ/န၃၉လျှောက်ထားနိုင်ရေးအတွက် စိုက်ပျိုးမြေများ၊ စီမံကိန်းလုပ်ငန်းများ၊ သာသနာ့မြေ၊ သုသာန်မြေ၊ သစ်တောမြေများနှင့် လွတ်ကင်းမှုရှိ/မရှိ လုပ်ကွက်များထပ်နေခြင်းရှိ/မရှိ မြေရာဇဝင်စီစစ်တင်ပြရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာခဲ့ပါသည်။

သို့ဖြစ်ပါ၍ လျှောက်ထားမြေနေရာအား ကွင်းဆင်းစီစစ်ပြီး အောက်ပါအချက်အလက်များနှင့်အတူ ပြန်လည်တင်ပြအပ်ပါသည်။

(က) လျှောက်ထားသောမြေနေရာသည် မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအုပ်စု ကွင်းအမှတ်-(ပြင်ပ)၊ ဦးပိုင်အမှတ်-(N-1)၊ ဧရိယာ(၆. ၀၀)ဧက ရှိယာမြေ၊ ဦးပိုင်အမှတ်(N-2)၊ ဧရိယာ (၂၁. ၁၅)ဧကရှိ တောရိုင်းမြေ၊ စုစုပေါင်းဧရိယာ (၂၇. ၁၅)ဧက ရှိပါသည်။ ၎င်းမြေကွက်၏ အရှေ့ဘက်တွင် နမ့်မွေးချောင်း၊ အနောက်ဘက်တွင်သစ်တောစိုက်ခင်း ၊ မြောက်ဘက်တွင်ယာမြေ၊ တောင်ဘက်တွင် ယာမြေ များရှိပါသည်။

(ခ) လျှောက်ထားမြေကိုဦးရန်ကွယ်ကျိန်းနှင့် ဦးတွမ်ကျားဆုံးတို့မှ အမည်ပေါက်ပိုင်ဆိုင်ပြီး ၎င်းတို့နှစ်ဦးသည် Grant Precious Mine Co;Ltd မှ ဒါရိုက်တာများဖြစ်၍ ကုမ္ပဏီကိုယ်စားလုပ်ကိုင်ခြင်းဖြစ်ပါသည်။

(ဂ) လျှောက်ထားမြေတွင် ယခင်နှစ်များက ယာစပါးနှင့်ပြောင်းဖူးစသည့် သီးနှံများစိုက်ပျိုးခဲ့သော်လည်း ဖြစ်ထွန်းအောင်မြင်မှုမရှိသဖြင့် ယခုနှစ်တွင်စိုက်ပျိုးခြင်းမရှိပါ။

(ဃ) မြေပြင်ပေါ်တွင် အဆောက်အဦးဆောက်လုပ်ထားခြင်းမရှိပါ။

(င) လျှောက်ထားသောမြေသည် စီမံကိန်းလုပ်ငန်းများ၊ သာသနာ့မြေ၊ သစ်တောမြေများနှင့် လွတ်ကင်းမှုရှိပါသည်။

(စ) လျှောက်ထားမြေအား လ/န-၃၉ခွင့်ပြုပေးပါက ပတ်ဝန်းကျင်အား ထိခိုက်စေမှုမရှိပါကြောင်း ကျေးရွာအုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်အားပူးတွဲတင်ပြအပ်ပါသည်။

(ဆ) လျှောက်ထားမြေတွင် ယာမြေ(၆. ၀၀)ဧကသာပါဝင်ပြီး သီးနှံစိုက်ပျိုးဖြစ်ထွန်းမှုမရှိသောမြေဖြစ်ပြီး၊ (၂၁. ၁၅)ဧကမှာ တောရိုင်းမြေဖြစ်သဖြင့် လ/န(၃၉)လျှောက်ထားပါကမြို့နယ်မြေစာရင်း ဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းသဘောထားမှတ်ချက်တင်ပြအပ်ပါသည်။

(သက်ဆန်းဦး)
ဦးစီးအရာရှိ
မြို့နယ်မြေစာရင်းဦးစီးဌာန
မူဆယ်မြို့။

မိတ္တူကို-

-တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာနမှူး၊ တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာန၊ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ လားရှိုးမြို့။

-ခရိုင်အုပ်ချုပ်ရေးမှူး၊ ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ မူဆယ်မြို့။

-Grant Precious Mine Co;Ltd

-ရုံးလက်ခံ၊

-မျှောစာတွဲ။

ကျေးရွာအုပ်စုအုပ်ချုပ်ရေးမှူးရုံး
နမ့်အွမ်ကျေးရွာအုပ်စု၊ မူဆယ်မြို့နယ်
စာအမှတ်၊ .................
ရက်စွဲ၊ ၂၉/၁၂/၂၀၁၁။

**"ထောက်ခံချက်"**

ရက်စွဲ။ ၂၀၁၁ ခုနှစ် ဒီဇင်ဘာ (၂၉)ရက်

မူဆယ်မြို့နယ်၊နမ့်အွမ်ကျေးရွာအုပ်စု၊ မူလွန်ပန်ခါးကျေးရွာ ကွင်းအမှတ်(ပြင်ပ) ဦးပိုင်အမှတ်(N-၁+N-၃)၊ ဧရိယာ(၂၇.၁၅)ဧကရှိမြေနေရာအား လန/၃၉ ခွင့်ပြုမိန့်ချထားပေးပါက ဘေးပတ်ဝန်းကျင်အား ထိခိုက်မှုမရှိနိုင်ပါကြောင်း ထောက်ခံအပ်ပါသည်။

( စိုင်း ကျင်မြင့် )
အုပ်ချုပ်ရေးမှူး
နမ့်အွမ်ကျေးရွာအုပ်စု၊မူဆယ်မြို့နယ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## ပြည်နယ်အစိုးရအဖွဲ့
## ရှမ်းပြည်နယ်

စာအမှတ်၊ (၂၀၄၂ ) /၃-၆၂၈ (စည်းဝေး)/အစရ(ရှမ်း)

ရက် စွဲ ၊ ၂၀၁၂ ခုနှစ်၊ ဖေဖော်ဝါရီလ ၂ ရက်

သို့

ဒုတိယညွှန်ကြားရေးမှူး
တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာန
လားရှိုးမြို့

အကြောင်းအရာ။ **လ/န(၃၉)လျှောက်ထားရန်အတွက် မြေစာရင်းပုံစံ(၁၀၅)ရေးကူးခွင့် တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက်။ တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာန၊ လားရှိုးမြို့၏ (၅-၁-၂၀၁၂)ရက်စွဲပါစာအမှတ်၊ ၀၃/နစ-၃

Grand Precious Mine Co;Ltd မှ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီးရှိ မြေလွတ်/မြေရိုင်း (၅၂. ၄၉)ဧကပေါ်တွင် တစ်ရက်လျှင် ကြံတန်ချိန်(၁၀၀၀)ကြိတ်ဝါးနိုင်သော သကြားစက်တည်ဆောက်ရန် လ/န(၃၉)ခွင့်ပြုမိန့် လျှောက်ထားနိုင်ရေးအတွက် မြေစာရင်းပုံစံ(၁၀၅)ရေးဆွဲခွင့်ပြုပါရန် တင်ပြခြင်းနှင့်ပတ်သက်၍ တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာန၊ လားရှိုးမြို့မှ ရည်ညွှန်းပါစာဖြင့် မြေရာဇဝင်တင်ပြလာမှုအပေါ် ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ ပုံမှန်အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၂)၊ ဆုံးဖြတ်ချက်အပိုဒ်-၁၀(၁-ဝ)အရ မြေစာရင်းပုံစံ(၁၀၅)ရေးကူးခွင့်နှင့် လ/န(၃၉)အမှုတွဲတည်ဆောက် ခွင့်ပြုကြောင်း အကြောင်းကြားပါသည်။

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)
(စိုင်းဆာလူ၊ စိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး)

မိတ္တူကို

ပြည်နယ်မြေစာရင်းဦးစီးဌာန၊ တောင်ကြီးမြို့
ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ မူဆယ်မြို့
Grand Precious Mine Co;Ltd
[illegible]

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

စာအမှတ်၊ (၁၈၆၁) /၃-၆၂၊ (စည်းဝေး)/အစရ(ရှမ်း)
ရက်စွဲ ၊ ၂၀၁၂ ခုနှစ် ၊ မေ လ ၄ ရက်

သို့

ဒုတိယညွှန်ကြားရေးမှူး
တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာန
လားရှိုးမြို့

အကြောင်းအရာ။ လ/န(၃၉)လျှောက်ထားရန်အတွက် မြေစာရင်းပုံစံ(၁၀၅)ရေးကူးခွင့် တင်ပြခြင်းကိစ္စ

ရည် ညွှန်း ချက်။ (၁) တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာန၊ လားရှိုးမြို့၏ (၅-၁-၂၀၁၂)ရက်စွဲပါစာအမှတ်၊ ၀၃/နစ-၃

(၂) ရှမ်းပြည်နယ်အစိုးရအဖွဲ့၏(၂-၂-၂၀၁၂)ရက်စွဲပါ စာအမှတ်၊ (၁၀၄၂)/၃-၆၂၈ (စည်းဝေး)/အစရ(ရှမ်း)

၁။ Grand Precious Mine Co;Ltd မှ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီးရှိ မြေလွတ်/မြေရိုင်း (၅၂. ၄၉)ဧကပေါ်တွင် တစ်ရက်လျှင် ကုန်တန်ချိန်(၁၀၀၀)ကြိတ်ခွဲနိုင်သော သကြားစက်တည်ဆောက်ရန် လ/န(၃၉)ခွင့်ပြုမိန့် လျှောက်ထားနိုင်ရေးအတွက် မြေစာရင်းပုံစံ(၁၀၅)ရေးဆွဲခွင့်ပြုပါရန် တင်ပြခြင်းနှင့်ပတ်သက်၍ တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာန၊ လားရှိုးမြို့မှ ရည်ညွှန်းပါစာဖြင့် မြေဇာဖဝင်တင်ပြလာမှုအပေါ် ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ ပုံမှန်အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၂)၊ ဆုံးဖြတ်ချက်အပိုဒ်-၁၀(၁-၀)အရ စုစုပေါင်းမြေဧရိယာ(၂၇. ၁၅)ဧကအား မြေစာရင်းပုံစံ(၁၀၅) ရေးကူးခွင့်နှင့် လ/န(၃၉)အမှုတွဲ တည်ဆောက်ခွင့်ပြုကြောင်း အကြောင်းကြားပါသည်။

၂။ ရည်ညွှန်း(၂)ပါစာအား ဤစာဖြင့် ကော်လွန်ပယ်ဖျက်လိုက်ကြောင်း အကြောင်းကြားပါသည်။

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)
(ဗိုလ်းသောလှ၊ စိုက်ပျိုးရေးနှင့်ဆည်မြောင်းရေးဝန်ကြီး)

မိတ္တူကို

ညွှန်ကြားရေးမှူး၊ မြေစာရင်းဦးစီးဌာန၊ တောင်ကြီး
စီမံကိန်း စီးပွားရေးဦးစီးဌာန၊ တောင်ကြီး
Grand Precious Mine Co;Ltd
ရုံးလက်ခံ/မျှော

# မူဆယ်မြို့နယ်ကျေးရွာအုပ်စုအညွှန်းပြမြေပုံ




ဦးစိုးအရာရှိ
မြို့နယ်မြေစာရင်းဦးစီးဌာန
မူဆယ်မြို့

လားရှိုးမြို့ (stamp)

တွဲ ဖက် ပြည် နယ် မြေ စာ ရင်း ဦး စီး ဌာ န
ရှမ်း ပြည် နယ် ( မြောက် ပိုင်း )၊ လား ရှိုး မြို့
စာ အ မှတ် - ၂၂၀ / မ အ - ၇
ရက်စွဲ၊ ၂၀၁၂ ခုနှစ် ၊ ဖေဖော်ဝါရီလ ၊ ၆ ရက်

အကြောင်းအရာ။ ။လ/န(၃၉) လျှောက်ထားရန်အတွက်မြေစာရင်းပုံစံ(၁၀၅)ရေးကူးခွင့်တင်ပြခြင်းကိစ္စ။

ရည် ညွှန်း ချက်။ ။ပြည်နယ်အစိုးရအဖွဲ့ ၊ ရှမ်းပြည်နယ်၏ ( ၂ . ၂ . ၂၀၁၂ ) ရက်စွဲပါစာအမှတ်-၁၀၄၂/၃-၆၂၈(စည်းဝေး)/အစရ (ရှမ်း)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Grand Precious Mine Co.Ltd မှ ရှမ်းပြည်နယ်(မြောက်ပိုင်း) ၊ မူဆယ်ခရိုင် ၊ မူဆယ်မြို့နယ် ၊ နမ့်အွမ်ကျေးရွာအနီးရှိ မြေလွတ်/မြေရိုင်း (၅၂.၄၉) ဧကပေါ်တွင် တစ်ရက်လျှင် ကြံတန်ချိန်(၁၀၀၀)ကြိတ်ခွဲနိုင်သော သကြားစက်တည်ဆောက်ရန် လ န(၃၉) ခွင့်ပြုမိန့် လျှောက်ထားနိုင်ရေးအတွက်မြေစာရင်းပုံစံ(၁၀၅)ရေးဆွဲခွင့်ပြုပါရန် တင်ပြခြင်းနှင့်ပတ်သက်၍တွဲဖက်ပြည်နယ်မြေစာရင်းဦးစီးဌာန ၊ လားရှိုးမြို့၏ (၅.၁.၂၀၁၂)ရက်စွဲပါစာအမှတ်-၀၃၅/မအ-၇ဖြင့် မြေရာဇဝင်တင်ပြလာမှုအပေါ် ရှမ်းပြည်နယ် အစိုးရအဖွဲ့၏ ပုံမှန်အစည်းအဝေး အမှတ်စဉ်(၂/၂၀၁၂)ဆုံးဖြတ်ချက် အပိုဒ်-၁၀(၁-၀)အရ မြေစာရင်းပုံစံ (၁၀၅)ရေးကူးခွင့် နှင့် လ/န(၃၉)အမှတ်ဲ တည်ဆောက်ခွင့်ပြုကြောင်း ရည်ညွှန်းပါစာဖြင့် အကြောင်းကြား ပါသည်။

၂။ သို့ဖြစ်ပါ၍ ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန (ရုံးချုပ်)၏ (၃.၃.၁၉၉၄)ရက်စွဲပါ အမြဲအမိန့်အမှတ်-(၁/၉၄)နှင့်(၂၆.၁၂.၂၀၀၃)ရက်စွဲပါ အမြဲအမိန့်(၁၈၀)ညွှန်ကြားချက်များနှင့်အညီ သက်သေခံ မြေပုံရေးကူးပေးပြီး ဥပဒေ၊ လုပ်ထုံးလုပ်နည်း ညွှန်ကြားချက်များနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန် နှင့် ရေးကူးပေးသော မြေစာရင်းပုံစံ(၁၀၅)မိတ္တူတစ်စုံအား ဤရုံးသို့ ပြန်လည်ပေးပို့ရန် အကြောင်းကြားပါသည်။

(signature) ၆.၂.၂၀၁၂

( သိန်း ဦး )
တွဲဖက်ပြည်နယ်မြေစာရင်းဦးစီးဌာနမှူး
တွဲဖက်ပြည်နယ်မြေစာရင်းဦးစီးဌာန
ရှမ်းပြည်နယ် (မြောက် ပိုင်း) ၊ လားရှိုးမြို့

ခရိုင်မြေစာရင်းဦးစီးဌာနမှူး
မူဆယ်ခရိုင် ၊ မူဆယ်မြို့။

မိတ္တူကို
- ရုံးလက်ခံ။
- မျှောဘာသွဲ ၊

ရှမ်းပြည်နယ်

ခရိုင်မြေစာရင်းဦးစီးဌာန
ရှမ်းပြည်နယ် ( မြောက်ပိုင်း ) ၊ မူဆယ်မြို့
စာအမှတ် ၊ ၀၉၃ / မအ - ၂
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၁၃ )ရက်

အကြောင်းအရာ။ **။လ/န(၃၉) လျှောက်ထားရန်အတွက်မြေစာရင်းပုံစံ(၁၀၅)ရေးကူးခွင့်တင်ပြခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ ။တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာန၊ရှမ်းပြည်နယ်(မြောက်ပိုင်း)၊လားရှိုးမြို့၏ (၆.၂.၂၀၁၂)ရက်စွဲပါစာအမှတ်–၂၂၀/မအ–၇။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Grand Precious Mine Co; Ltd မှ ရှမ်းပြည်နယ်(မြောက်ပိုင်း)မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီးရှိ မြေလွတ်/မြေရိုင်း (၅၂.၄၉)ဧကပေါ်တွင် တစ်ရက်လျှင် ကြိတ်နှုန်း(၁၀၀၀)ကြိတ်ဝါးနိုင်သော သကြားစက်တည်ဆောက်ရန် လ/န(၃၉)ခွင့်ပြုမိန့် လျှောက်ထားနိုင်ရေးအတွက် မြေစာရင်းပုံစံ (၁၀၅)ရေးဆွဲခွင့်ပြုပါရန် တင်ပြခြင်းနှင့်ပတ်သက်၍ တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာန၊ လားရှိုးမြို့၏ (၅.၁.၂၀၁၂)ရက်စွဲပါစာအမှတ်–၀၃၅/မအ–၇ဖြင့် မြေရာဇဝင်တင်ပြလာမှုအပေါ် ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ ပုံမှန်အစည်းအဝေး အမှတ်စဉ်(၂/၂၀၁၂)ဆုံးဖြတ်ချက် အပိုဒ်၁၀(၁–ဝ)အရ မြေစာရင်းပုံစံ(၁၀၅)ရေးကူးခွင့်နှင့် လ/န(၃၉)အမှုတွဲ တည်ဆောက်ခွင့်ပြုကြောင်း ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန (ရုံးချုပ်)၏ ၃.၃.၁၉၉၄ ရက်စွဲပါ အမြဲအမိန့်အမှတ်–၁/၉၄နှင့် (၂၆.၁၂.၂၀၀၃)ရက်စွဲပါ အမြဲအမိန့် ၁၈၀ ညွှန်ကြားချက်များနှင့်အညီ သက်သေခံ မြေပုံရေးကူးပေးပြီး ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့်အညီ ဆက်လက်ဆောင်ရွက်သွားရန်နှင့်ရေးကူးပေးသော မြေစာရင်းပုံစံ (၁၀၅)မိတ္တူ (၂)စုံအား ခရိုင်မြေစာရင်းဦးစီးဌာနသို့ ပြန်လည်ပေးပို့ရန် အကြောင်းကြားပါသည်။

၁၃.၂.၁၂

(ဆန်းလွင်ဦး)
ခရိုင်မြေစာရင်းဦးစီးဌာနမှူး

**ဦးစီးအရာရှိ**
**မြို့နယ်မြေစာရင်းဦးစီးဌာန**
**မူဆယ်မြို့။**

မိတ္တူကို–
–တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာနမှူး၊ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊လားရှိုးမြို့။
✓–Grand Precious Mine Co; Ltd ။
–ရုံးလက်ခံ/မျှောစာတွဲ။

မြို့ နယ် အုပ် ချုပ် ရေး မှူး ရုံး

မူဆယ်မြို့

စာအမှတ်၊ ၄ / ၂ - ၁၁ / ဦး ၁ ( ၀၉၅၇ )

ရက်စွဲ ၊ ၂၀၁၂ခုနှစ်၊ ဖေဖော်ဝါရီလ ၁၆ ရက်

သို့

ဦးစီးအရာရှိ

မြို့နယ်မြေစာရင်းဦးစီးဌာန

မူဆယ်မြို့

အကြောင်းအရာ။ **မြေစာရင်းပုံစံ(၁၀၅)ရေးကူးခွင့်နှင့်လန(၃၉)အမှတ်တွဲ တည်ဆောက်ခွင့်ကိစ္စ**

ရည် ညွှန်း ချက်။ ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ မူဆယ်မြို့၏ (၁၃-၂-၂၀၁၂)ရက်စွဲပါစာအမှတ်၊ ၄/၄-၁၃/ဦး၆(၁၃၆)

Grand Precious Mine Co,Ltd ၊မှ မူဆယ်မြို့နယ်၊နမ့်အွမ်ကျေးရွာအနီးရှိ မြေလွတ် / မြေရိုင်း (၅၂.၄၉) ဧကပေါ်တွင် တစ်ရက်လျှင် ကြံတန်ချိန်(၁၀၀၀)ကြိတ်ဝါးနိုင်သော သကြားစက် ဆောက်လုပ်နိုင်ရေးအတွက် မြေစာရင်းပုံစံ( ၁၀၅ )ရေးကူးခွင့်နှင့် လန(၃၉)အမှတ်တွဲ တည်ဆောက်နိုင်ရေးဆောင်ရွက်ပေးရန် အကြောင်းကြားပါသည်။

(၁၆.၂.၁၂)

မြို့နယ်အုပ်ချုပ်ရေးမှူး

( မြဟန် ၊ ပ / ၃၂၄၄ )

မိတ္တူကို

- မန်နေဂျင်းဒါရိုက်တာ၊Grand Precious MineCo,Ltd၊နမ့်အွန်ကျေးရွာအုပ်စု၊မူဆယ်မြို့နယ်(မြို့နယ်မြေစာရင်းဦးစီးဌာနသို့သွားရောက်ဆက်သွယ်ဆောင်ရွက်ရန်)

ရုံးလက်ခံ

GRAND PRECIOUS MINE COMPANY LIMITED
No.F 20. Yandanarpon Street, Bet: 65th x66th St:, Chanmyatharsi
Township, Mandalay, Myanmar.
Ph:, 09-2006453, 09-2005907, 09-5145986, 09-2003996.

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရုံးခွန်တံဆိပ်ခေါင်း
၆ ကျပ် K6

သို့
မြို့နယ်အုပ်ချုပ်ရေးမှူး
မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မူဆယ်မြို့

စာအမှတ်၊ GMP ၁၀ / ၂၀၁၂ မဆ (လ / န)
ရက်စွဲ၊၂၀၁၂ခုနှစ်၊ ဖေဖော်ဝါရီလ(၂၁)ရက်

အကြောင်းအရာ။ **မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအုပ်စုတွင် သကြားစက်ရုံ တည်နေရာ လ / န (၃၉)ခွင့်ပြုမိန့် လျှောက်ထားခြင်း**

ရည်ညွှန်းချက် ။ ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ (၁၃-၂-၂၀၁၂)ရက်စွဲပါ စာအမှတ် ၄ / ၄-၁၃ / ဦး-၆(၁၃၆)

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအုပ်စု၊ တောရိုင်းမြေ(၂၇-၁၅)ကေပေါ်တွင် တစ်ရက်လျှင် ကြံတန်ချိန် (၁၀၀၀) ကြိတ်ဝါးနိုင်သော သကြားစက်မြေနေရာ လ / န(၃၉)ခွင့်ပြုမိန့်ရရှိရန် လေးစားစွာတင်ပြလျှောက်ထားအပ်ပါသည်။

လျှောက်ထားသူ

အောင်ဆန်း
( ဒါရိုက်တာများကိုယ်စား )
Grand Precious Mine Co., Ltd.
အဘအမည် - ဦးအန်ဆန်း
၁၃ / မဆတ(နိုင်)၀၀၄၆၈၈

မိတ္တူကို
- မြို့နယ်မြေစာရင်းဦးစီးဌာန၊ မူဆယ်မြို့
လက်ခံ

မြန် မာ့ စိုက် ပျိုး ရေး လုပ် ငန်း
မြို့ နယ် မန် နေ ဂျာ ရုံး ၊ မူ ဆယ် မြို့
စာအမှတ်၊ စီမံ - ၁ / ၂၀၁၁ - ၁၂ (၃၄၅ )
ရက် စွဲ ၊ ၂၀၁၂ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၂၂ )ရက်

## " ထောက်ခံချက် "

Grand Precious Mine Co., Ltd မှ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီးရှိ မြေလွတ်၊ မြေရိုင်း (၅၂. ၄၉)ဧကပေါ်တွင် တစ်ရက်လျှင် ကြံတန်ချိန် (၁၀၀၀)ကြိတ်နိုင်သော သကြားစက် ဆောက်လုပ်နိုင်ရေးအတွက် မြေစာရင်းပုံစံ (၁၀၅) ရေးကူးခွင့်နှင့် လန (၃၉) လျှောက်ထားခြင်းအပေါ်တွင် မူဆယ်မြို့နယ်၊ မြန်မာ့စိုက်ပျိုးရေးလုပ်ငန်းအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ထောက်ခံအပ်ပါသည်။

22.2.2012

( မင်းမင်းအောင် )

မိတ္တူကို -

- ရုံးလက်ခံ။

SPY/U M M Aung/ MMA

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ကျေးတိုင်နှင့်မြေစာရင်းဦးစီးဌာန
မြို့နယ်မြေစာရင်းဦးစီးဌာန
မူဆယ်မြို့
၁၃၇၃ ခုနှစ် တပို့တွဲလပြည့်ကျော် (၁၁)ရက်
၂၀၁၂ ခုနှစ်ဖေဖော်ဝါရီလ(၁၇)ရက်
အမိန့်ကြော်ငြာစာအမှတ် ၁၀ /၂၀၁၂

ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအုပ်စု၊ ကွင်းပြင်ပ၊ ဦးပိုင်အမှတ် N1 (၆. ၀၀) ဧကရှိယာမြေနှင့် (၂၁. ၁၅)ဧကရှိ တောရိုင်းမြေစုစုပေါင်း(၂၇. ၁၅)ဧကရှိ မြေပေါ်တွင် သကြားစက်ရုံမြေအဖြစ်အသုံးပြုရန် Grand Precious Mine C0 Ltd မှ ၁၉၅၃ခုနှစ် လယ်ယာမြေနိုင်ငံပိုင်ပြုလုပ်ရေးအက်ဥပဒေပုဒ်မ (၃၉)အရ လျှောက်ထားလာသဖြင့် အဆိုပါမြေနှင့် ပါတ်သက်၍ အကျိုးတစ်စုံတစ်ရာနစ်နာသောသူများသည် ခိုင်လုံသောသက်သေအထောက်အထား စာရွက်စာတမ်းများနှင့် ဤရုံးသို့ ၂၀၁၂ခုနှစ် မတ်လ(၁၇)ရက်နေ့အတွင်း ကန့်ကွက်နိုင်ကြောင်း ကြော်ငြာအပ်ပါသည်။ ၎င်းရက်ထက်ကျော်လွန်၍ ကန့်ကွက်သူမရှိပါက သကြားစက်ရုံမြေနေရာအဖြစ် အသုံးပြုနိုင်ရန် ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကြေငြာအပ်ပါသည်။

(သက်ဆန်းဦး)
ဦးစီးအရာရှိ
မြို့နယ်မြေစာရင်းဦးစီးဌာန
မူဆယ်မြို့။

ဖြန့်ဝေခြင်း -

-ကျေးရွာအုပ်စုအုပ်ချုပ်ရေးမှူး၊ နမ့်အွမ်ကျေးရွာအုပ်စု၊ မူဆယ်မြို့နယ်။
(အုပ်စုနယ်မြေအတွင်း ကြေငြာပေးပါရန်နှင့် ကြော်ငြာသင်ပုန်းတွင်ကပ်ထားရန်)။
-လ/န ၃၉ လျှောက်ထားမည့်မြေနေရာတွင် ကပ်ထားရန်။

မိတ္တူကို-

-လက်ထောက်ညွှန်ကြားရေးမှူး၊ ခရိုင်မြေစာရင်းဦးစီးဌာန၊ မူဆယ်ခရိုင်၊ မူဆယ်မြို့။
-မြို့နယ်အုပ်ချုပ်ရေးမှူး၊ မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊မူဆယ်မြို့။
-Grand Precious Mine C0 Ltd မူဆယ်မြို့။
-အမိန့်တွဲဖိုင်။
-ရုံးလက်ခံ/ မျှောစာတွဲ။

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**ပြည်နယ်အစိုးရအဖွဲ့**

**ရှမ်းပြည်နယ်**

စာအမှတ်၊ (၅၂၁၁) /၃-၆၂၈ (စည်းဝေး)/အစရ(ရှမ်း)

ရက် စွဲ ၊ ၂၀၁၂ ခုနှစ်၊ ဖွန် လ ၁၉ ရက်

သို့

ဒုတိယညွှန်ကြားရေးမှူး

တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာန

လားရှိုးမြို့

အကြောင်းအရာ။ **လ/န(၃၉)လျှောက်ထားရန်အတွက် မြေစာရင်းပုံစံ(၁၀၅)ရေးကူးခွင့် တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာန၊ လားရှိုးမြို့၏ (၅-၁-၂၀၁၂)ရက်စွဲပါစာအမှတ်၊ ၀၃/နစ-၃

(၂) ရှမ်းပြည်နယ်အစိုးရအဖွဲ့၏(၄-၅-၂၀၁၂)ရက်စွဲပါ စာအမှတ်၊ (၃၆၆၃)/၃-၆၂၈ (စည်းဝေး)/အစရ(ရှမ်း)

၁။ Grand Precious Mine Co;Ltd မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီးရှိ မြေလွတ်/မြေရိုင်း (၅၂. ၄၉)ဧကပေါ်တွင် တစ်ရက်လျှင် ကြံတန်ချိန်(၁၀၀၀)ကြိတ်ဝါးနိုင်သော သကြားစက်တည်ဆောက်ရန် လ/န(၃၉)ခွင့်ပြုမိန့် လျှောက်ထားနိုင်ရေးအတွက် မြေစာရင်းပုံစံ(၁၀၅)ရေးဆွဲခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်ပတ်သက်၍ တွဲဘက်ပြည်နယ်မြေစာရင်းဦးစီးဌာန၊ လားရှိုးမြို့မှ ရည်ညွှန်း(၁)ပါ စာဖြင့် မြေရာဇဝင်တင်ပြလာမှုအပေါ် ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ ပုံမှန်အစည်းအဝေးအမှတ်စဉ်(၂/၂၀၁၂)၊ ဆုံးဖြတ်ချက်အပိုဒ်-၁၀(၁-ဝ)အရ စုစုပေါင်းမြေဧရိယာ(၂၇. ၁၅)ဧကအား မြေစာရင်းပုံစံ(၁၀၅) ရေးကူးခွင့်နှင့် လ/န(၃၉)အမှုတွဲ တည်ဆောက်ခွင့်ပြုကြောင်း ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားပြီးဖြစ်သော်လည်း ယနေ့အချိန်ထိ မြေစာရင်းပုံစံ(၁၀၅)ရေးကူးဆောင်ရွက်ပေးခြင်းမရှိသေးကြောင်း Grand Precious Mine Co;Ltd မှ တင်ပြလာပါသည်။

၂။ သို့ဖြစ်ပါ၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားထားသည့် မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီးရှိ စုစုပေါင်းမြေဧရိယာ(၂၇. ၁၅)ဧကအား မြေစာရင်းပုံစံ(၁၀၅)ရေးကူးခွင့်နှင့် လယ်ယာမြေဥပဒေပုဒ်မ-၃၀(ခ)အရ အမှုတွဲ တည်ဆောက်ခွင့်အား အမြန်(အမြန်) ဆောင်ရွက်ပေးရန်နှင့် ဆောင်ရွက်ပြီးစီးမှု အခြေအနေအား ပြန်လည်တင်ပြရန် အကြောင်းကြားပါသည်။

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)

(စိုင်းဆာလူ၊ စိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး)

မိတ္တူကို

ပြည်နယ်မြေစာရင်းဦးစီးဌာန၊ တောင်ကြီးမြို့

ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ မူဆယ်မြို့

Grand Precious Mine Co;Ltd

ရုံးလက်ခံ၊ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဖက်(စ)၉၅-၆၇-၄၀၆၁၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊ ၄၀၆၁၆၁

စာအမှတ်၊ ရက-၆(က) / မ- ၁၁၉၃ / ၂၀၁၂( ၂၅၁၀ )

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဖေဖော်ဝါရီ လ ၂၂ ရက်

သို့

ဝန်ကြီးချုပ်ရုံး

ရှမ်းပြည်နယ်အစိုးရအဖွဲ့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁)တန်ဖိုးကြီးမားသော သတ္တုတွင်း ကုမ္ပဏီ လီမိတက်(Grand Precious Mine Co., Ltd) ၏ (၁၄-၁၁-၂၀၁၁) ရက်စွဲပါစာ

(၂)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၈-၁၁-၂၀၁၂) ရက်စွဲပါစာ အမှတ်၊ရက-၆(က)/ မ-၁၁၉၃/ ၂၀၁၁(၁၄၁၄၉)

၁။ တန်ဖိုးကြီးမားသော သတ္တုတွင်း ကုမ္ပဏီ လီမိတက်(Grand Precious Mine Co., Ltd) မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီး ရှိ မြေ (၅၂.၄၉) ဧက တွင် တစ်နေ့ တန်(၁၀၀၀)ကျ သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းချက် (၁)ပါစာဖြင့် အဆိုပြုချက် တင်ပြခဲ့ပါသည်။

၂။ ယင်းအဆိုပြုချက် နှင့်စပ်လျဉ်း၍ ရှမ်းပြည်နယ် အစိုးရအဖွဲ့သို့ ရည်ညွှန်းချက်(၂) ပါစာဖြင့် သဘောထား တောင်းခံခဲ့ပါသည်။

၃။ သို့ရာတွင် သက်ဆိုင်ရာ ဌာန၊ အဖွဲ့အစည်းမှ ယနေ့တိုင် သဘောထား ပြန်ကြားလာခြင်း မရှိသေးပါသဖြင့် သဘောထား မှတ်ချက်အား **ဆောလျှင်စွာ** ပြန်ကြားပေးပါရန် ထပ်မံညှိနှိုင်း မေတ္တာရပ်ခံ အပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အေးကို၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ-

- တန်ဖိုးကြီးမားသော သတ္တုတွင်း ကုမ္ပဏီလီမိတက် (Grand Precious Mine Co., Ltd) ထံ သိရှိနိုင်ပါရန်နှင့် သဘောထားမှတ်ချက် ရရှိရေးအတွက် သက်ဆိုင်ရာနှင့် ဆက်သွယ် ဆောင်ရွက်ပါရန် အကြောင်းကြားပါသည်။
- ရုံးလက်ခံ/ မျှောစာတွဲ။

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

ဖက်(စ)၉၅-၆၇-၄၀၆၁၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊ ၄၀၆၁၆၁

စာအမှတ်၊ ရက-၆(က) / မ- ၁၀၉၇ / ၂၀၁၁(၁၄၁၄၉ )
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ လ ၁၈ ရက်

သို့

ဝန်ကြီးချုပ်
ရှမ်းပြည်နယ်အစိုးရအဖွဲ့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ တန်ဖိုးကြီးမားသော သတ္တုတွင်း ကုမ္ပဏီ လီမိတက်(Grand Precious Mine Co., Ltd) ၏ (၁၄-၁၁-၂၀၁၁) ရက်စွဲပါစာ

၁။ တန်ဖိုးကြီးမားသော သတ္တုတွင်း ကုမ္ပဏီ လီမိတက်(Grand Precious Mine Co., Ltd) မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီး ရှိ မြေ (၅၂.၄၉) ဧက တွင် တစ်နေ့ တန်(၁၀၀၀)ကျ သကြား ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြခြင်းကို လက်ခံရရှိခဲ့ပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၃)၊ အပိုဒ်(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရက ထောက်ခံချက်ပေးရာတွင် ဝန်ကြီးချုပ်ကိုယ်တိုင် စိစစ် လက်မှတ်ရေးထိုးပြီး ထောက်ခံပေးပါရန် နိုင်ငံတော် သမ္မတရုံး၏ ရည်ညွှန်းချက်ပါ စာပိုဒ် ၃(စ)တွင် ဖော်ပြထားပါသည်။

၄။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ အချက်များအပေါ် သဘောထား မှတ်ချက်အား ပြန်ကြားပေးပါရန် အဆိုပြုချက် (တစ်)စောင် ပူးတွဲလျက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်-

(က) ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/မဖြစ်၊

(ခ) အဆိုပြု မြေနေရာ သုံးစွဲခြင်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် ရှိ / မရှိ၊

(ဂ) သဘာဝပတ်ဝန်းကျင် ထိခိုက်မှု ရှိ / မရှိ၊

(ဃ) တိုင်းဒေသကြီး အစိုးရ၏ သဘောထားနှင့် အကြံပြုချက်။

၅။ အထက်ပါ အချက်များအား ပြန်လည်စိစစ်ပြီး တင်ပြပေးပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(သူရဦးသောင်းလွင်၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူ-

- တန်ဖိုးကြီးမားသော သတ္တုတွင်း ကုမ္ပဏီ လီမိတက် (Grand Precious Mine Co., Ltd)ထံ သိရှိနိုင်ပါရန်နှင့် သဘောထားမှတ်ချက် ရရှိရေးအတွက် သက်ဆိုင်ရာနှင့် ဆက်သွယ် ဆောင်ရွက်ပါရန် အကြောင်းကြားပါသည်။
- ရုံးလက်ခံ/ မျှောစာတွဲ။

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

ဖက်(စ)-၆၇-၄၀၆၁၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊၄၀၆၁၆၁

စာအမှတ်၊ ရက-၆(က)/ မ-၁၀၉၃/ ၂၀၁၂(၈၂၇၁-၃၃)
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဇွန် လ ၂၆ ရက်

သို့

ဝန်ကြီးချုပ်
ရှမ်းပြည်နယ် အစိုးရအဖွဲ့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁)တန်ဖိုးကြီးမားသော သတ္တုတွင်း ကုမ္ပဏီ လီမိတက်(Grand Precious Mine Co., Ltd) ၏ (၁၄-၁၁-၂၀၁၁) ရက်စွဲပါစာ
(၂)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၈-၁၁-၂၀၁၁) ရက်စွဲပါစာ အမှတ်၊ရက-၆(က)/ မ-၁၀၉၃/ ၂၀၁၁(၁၄၁၅၀)
(၃)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၂-၂-၂၀၁၂) ရက်စွဲပါစာ အမှတ်၊ရက-၆(က)/ မ-၁၀၉၃/ ၂၀၁၂(၂၅၁၁)

၁။ တန်ဖိုးကြီးမားသော သတ္တုတွင်း ကုမ္ပဏီ လီမိတက်(Grand Precious Mine Co., Ltd) မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာ အနီးရှိ မြေ (၅၂.၄၉) ဧက တွင် တစ်နေ့ တန်(၁၀၀၀)ကျ သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့် ပြုပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် အဆိုပြုချက် တင်ပြခဲ့ပါသည်။

၂။ ယင်းအဆိုပြုချက်နှင့် စပ်လျဉ်း၍ ရှမ်းပြည်နယ် အစိုးရအဖွဲ့ သို့ ရည်ညွှန်းချက်(၂)ပါစာဖြင့် သဘောထား တောင်းခံခဲ့ပြီး ရည်ညွှန်းချက်(၃)ပါစာဖြင့် ထပ်မံ၍ သဘောထား တောင်းခံခဲ့ပြီးဖြစ်ပါသည်။

၃။ သို့ရာတွင် ရှမ်းပြည်နယ် အစိုးရအဖွဲ့ မှ ယနေ့တိုင် သဘောထား ပြန်ကြားလာခြင်း မရှိသေးပါသဖြင့် သဘောထား မှတ်ချက်အား **(တစ်ပတ်အတွင်း)**ပြန်ကြားပေးပါရန် ထပ်မံညှိနှိုင်း မေတ္တာရပ်ခံ အပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ -

- တန်ဖိုးကြီးမားသော သတ္တုတွင်း ကုမ္ပဏီ လီမိတက် (Grand Precious Mine Co., Ltd)ထံ သိရှိနိုင်ပါရန်နှင့် သဘောထားမှတ်ချက် ရရှိရေးအတွက် သက်ဆိုင်ရာနှင့် ဆက်သွယ် ဆောင်ရွက်ပါရန် အကြောင်းကြားပါသည်။
- ရုံးလက်ခံ/ မျှောစာတွဲ။

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

ဖက်(စ်)-၆၇-၄၀၆၁၀၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၁၀၁၉၊၄၀၆၁၀၆၁

စာအမှတ်၊ ရက-၆(က)/ မ-၁၁၉၃/ ၂၀၁၂(၈၂၇၃-၃၄)
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဇွန် လ ၂၆ ရက်

သို့

ဝန်ကြီးချုပ်
ရှမ်းပြည်နယ် အစိုးရအဖွဲ့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ (၁)တန်ဖိုးကြီးမားသော သတ္တုတွင်း ကုမ္ပဏီ လီမိတက်(Grand Precious Mine Co., Ltd) ၏ (၁၄-၁၁-၂၀၁၁) ရက်စွဲပါစာ
(၂)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၈-၁၁-၂၀၁၁) ရက်စွဲပါစာ အမှတ်၊ရက-၆(က)/ မ-၁၁၉၃/ ၂၀၁၁(၁၄၁၅၀)
(၃)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၂-၂-၂၀၁၂) ရက်စွဲပါစာ အမှတ်၊ရက-၆(က)/ မ-၁၁၉၃/ ၂၀၁၂(၂၅၁၁)

၁။ တန်ဖိုးကြီးမားသော သတ္တုတွင်း ကုမ္ပဏီ လီမိတက်(Grand Precious Mine Co., Ltd) မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာ အနီးရှိ မြေ (၅၂.၄၉) ဧက တွင် တစ်နေ့ တန်(၁၀၀၀)ကျ သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့် ပြုပါရန် ရည်ညွှန်းချက် (၁)ပါစာဖြင့် အဆိုပြုချက် တင်ပြခဲ့ပါသည်။

၂။ ယင်းအဆိုပြုချက်နှင့် စပ်လျဉ်း၍ ရှမ်းပြည်နယ် အစိုးရအဖွဲ့ သို့ ရည်ညွှန်းချက်(၂)ပါစာဖြင့် သဘောထား တောင်းခံခဲ့ပြီး ရည်ညွှန်းချက်(၃)ပါစာဖြင့် ထပ်မံ၍ သဘောထား တောင်းခံခဲ့ပြီးဖြစ်ပါသည်။

၃။ သို့ရာတွင် ရှမ်းပြည်နယ် အစိုးရအဖွဲ့ မှ ယနေ့တိုင် သဘောထား ပြန်ကြားလာခြင်း မရှိသေးပါသဖြင့် သဘောထား မှတ်ချက်အား **(တစ်ပတ်အတွင်း)**ပြန်ကြားပေးပါရန် ထပ်မံညှိနှိုင်း မေတ္တာရပ်ခံ အပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

Grand Precious Re 1(State).docx

မိတ္တူ -

- တန်ဖိုးကြီးမားသော သတ္တုတွင်း ကုမ္ပဏီ လီမိတက် (Grand Precious Mine Co., Ltd)ထံ သိရှိနိုင်ပါရန်နှင့် သဘောထားမှတ်ချက် ရရှိရေးအတွက် သက်ဆိုင်ရာနှင့် ဆက်သွယ် ဆောင်ရွက်ပါရန် အကြောင်းကြားပါသည်။
- ရုံးလက်ခံ/ မျှောစာတွဲ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊၁၁/ Grand Precious (၃၉၈/ ၂၀
ရက်စွဲ၊ ၂၀၁၂ခုနှစ်၊ဇွန်လ 14 ရက်။

m-890
14/6

အကြောင်းအရာ။ **Grand Precious Mine Co Ltd မှ တစ်ရက်လျှင် တန် (၁၀၀၀) ကြိတ်ဝါးနိုင်သော သကြားစက်ရုံတည်ဆောက်ကာ ကြံစိုက်ပျိုး၍ သကြားထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်တင်ပြခြင်းကိစ္စ။**

ရည်ညွှန်းချက်။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈.၁၁.၁၁) ရက်စွဲပါ စာအမှတ် ရက-၆(က)/မ-၁၁၉၃ / ၂၀၁၁(၁၄၁၅၀)။
(၂)လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏(၂၆.၄.၁၂) ရက်စွဲပါ စာအမှတ် ၁၁/ Grand Precious(၂၅၉ /၁၂)
(၃) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃.၅.၁၂) ရက်စွဲပါ စာ အမှတ် ရက-၆(က)/မ-၁၁၉၃ / ၂၀၁၂ (၆၇၈၆-ည)။

၁။ တန်ဘိုးကြီးမားသော သတ္တု တွင်း ကုမ္ပဏီလီမိ တက် (Grand Precious Mine Co Ltd) မှ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်မြို့နယ်၊ နန့်အွန်ကျေးရွာအနီးရှိ မြေ(၅၂၄၉)ဧက တွင် တစ်ရက်လျှင် တန်(၁၀၀၀) ကြိတ်ဝါးနိုင်သော သကြားစက်ရုံ တည်ဆောက်ကာ သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်း(၁)ပါစာဖြင့် တင်ပြလာခြင်းအားရည်ညွှန်း(၂)ပါစာဖြင့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ပေးပို့ခဲ့ပါသည်။

၂။ ဆက်လက်၍ ယင်းသဘောထား မှတ်ချက်များနှင့်အညီ ကုမ္ပဏီမှ ပြင်ဆင်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်လည်တင်ပြလာခြင်းများအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်မှ ရည်ညွှန်း (၃) ပါစာဖြင့် ထပ်မံမေတ္တာရပ်ခံလာပါသည်။

၃။ သို့ပါ၍ Grand Precious Mine Co Ltd မှ လယ်ယာစိုက်ပျိုးရေး နှင့်ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များနှင့်အညီ ပြင်ဆင်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်လည် တင်ပြလာခြင်းများအပေါ် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီး ဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(ကျော်ရွှေ၊ ရုံးအဖွဲ့မှူး)

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။**

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊စိုက်ပျိုးရေးစီမံကိန်းဦးစီးဌာန။
- ရုံးလက်ခံ၊

နောက်ဆက်တွဲ (၅)

Sheet (2)

# GRAND PRECIOUS MINE COMPANY LIMITED

## Annual Raw Materials Requipments

| စဉ် | အကြောင်းအရာ | ရေတွက်ပုံ | အရေအတွက် | ဈေးနှုန်း (ကျပ်) | တန်ဖိုး (ကျပ်) (၀၀၀) |
|---|---|---|---|---|---|
| | (၁-၃)နှစ်အထိ | | | | |
| ၁ | ကန့် | တန် | ၅၈.၅ | ၄၂၀,၀၀၀ | ၂၄,၅၇၀ |
| ၂ | ထုံး (ကယ်လစီယမ်အောက်ဆိုဒ်) | တန် | ၃၆၀ | ၁၁၅,၀၀၀ | ၄၁,၄၀၀ |
| ၃ | Phosphoric Acid (0.01%) | တန် | ၉ | ၁,၁၁၄,၂၈၆ | ၁၀,၀၂၉ |
| ၄ | Sulphuric Acid (0.005%) | တန် | ၄.၅ | ၃၈၇,၅၀၀ | ၁,၇၄၄ |
| ၅ | Amonium Sulphate (0.001%) | တန် | ၀.၉ | ၂၀၀,၀၀၀ | ၁၈၀ |
| | စုစုပေါင်း | | | | ၇၇,၉၂၂ |
| | (၄-၆)နှစ်အထိ | | | | |
| ၁ | ကန့် | တန် | ၆၀.၃ | ၄၃၂,၆၀၀ | ၂၆,၀၈၆ |
| ၂ | ထုံး (ကယ်လစီယမ်အောက်ဆိုဒ်) | တန် | ၃၇၁ | ၁၁၈,၄၅၀ | ၄၃,၉၄၅ |
| ၃ | Phosphoric Acid (0.01%) | တန် | ၉ | ၁,၁၄၇,၇၁၅ | ၁၀,၆၇၄ |
| ၄ | Sulphuric Acid (0.005%) | တန် | ၄.၆ | ၃၉၉,၁၂၅ | ၁,၈၃၆ |
| ၅ | Amonium Sulphate (0.001%) | တန် | ၀.၉ | ၂၀၆,၀၀၀ | ၁၈၅ |
| | စုစုပေါင်း | | | | ၈၂,၇၂၆ |
| | (၇-၁၀)နှစ်အထိ | | | | |
| ၁ | ကန့် | တန် | ၆၂.၁ | ၄၄၅,၅၇၈ | ၂၇,၆၇၀ |
| ၂ | ထုံး (ကယ်လစီယမ်အောက်ဆိုဒ်) | တန် | ၃၈၂ | ၁၂၂,၀၀၄ | ၄၆,၆၀၆ |
| ၃ | Phosphoric Acid (0.01%) | တန် | ၉.၆ | ၁,၁၈၂,၁၄၆ | ၁၁,၃၄၉ |
| ၄ | Sulphuric Acid (0.005%) | တန် | ၄.၇ | ၄၁၁,၀၉၉ | ၁,၉၃၂ |
| ၅ | Amonium Sulphate (0.001%) | တန် | ၀.၉ | ၂၁၂,၁၈၀ | ၁၉၁ |
| | စုစုပေါင်း | | | | ၈၇,၇၄၈ |

နောက်ဆက်တွဲ (၇)

# GRAND PRECIOUS MINE COMPANY LIMITED

## Projected Production & Income

| Sr No. | Particulars | A/U | Years | | |
|---|---|---|---|---|---|
| | | | Year 1-3 | Year 4-6 | Year 7-10 |
| 1 | Production of Sugar | Tons | 8,100 ✓ | 8,910 ✓ | 9,801 ✓ |
| 2 | Local Sale (80%) | | | | |
| | (a) Sugar | M. Tons | 6,480 ✓ | 7,128 ✓ | 7,841 ✓ |
| | (b) Sale Price | K/Tons | 400,000 ✓ | 440,000 ✓ | 484,000 ✓ |
| | (c) Sale Value | K (000) | 2,592,000 ✓ | 3,136,320 ✓ | 3,795,044 ✓ |
| 3 | Export Sale (20%) | | | | |
| | (a) Sugar | M. Tons | 1,620 ✓ | 1,782 ✓ | 1,960 ✓ |
| | (b) Sale Price | US$/ Tons | 750 ✓ | 825 ✓ | 908 ✓ |
| | (c) Sale Value | US$ (000) | 1,215 ✓ | 1,470 ✓ | 1,780 ✓ |

မှတ်ချက်။ ။ သကြားထုတ်လုပ်နိုင်မှုမှာ ကြံ၏ ၉%ကိုသာ သကြားအဖြစ် ထုတ်လုပ်နိုင်ပါသည်။

နောက်ဆက်တွဲ ( ၈ )

# GRAND PRECIOUS MINE COMPANY LIMITED

## Projected Profit and Loss Statement

( Kyat in Thousand)

| Sr. No. | | PARTICULARS | Year 1-3 | | | Year 4-6 | | | Year 7-10 | | |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | US$ | Kyats | Total (Kyats) | US$ | Kyats | Total (Kyats) | US$ | Kyat | Total (Kyats) |
| 1 | | **INCOME** | | | | | | | | | |
| | | Local | - | 2,592,000 | 2,592,000 | - | 3,136,320 | 3,136,320 | - | 3,795,044 | 3,795,044 |
| | | Export | 1,215 | - | 7,290 | 1,470 | - | 8,821 | 1,780 | - | 10,680 |
| | | **Total** | **1,215** | **2,592,000** | **2,599,290** | **1,470** | **3,136,320** | **3,145,141** | **1,780** | **3,795,044** | **3,805,724** |
| 2 | | **EXPENDITURE** | | | | | | | | | |
| | 1 | Raw Materials (Sugar Cane) | - | 2,050,000 | 2,050,000 | - | 2,255,000 | 2,255,000 | - | 2,480,500 | 2,480,500 |
| | 2 | Raw Materials (Chemical) | - | 77,922 | 77,922 | - | 82,726 | 82,726 | - | 87,748 | 87,748 |
| | 3 | Labour | 36 | 115,680 | 115,896 | 36 | 115,680 | 115,896 | 37 | 119,150 | 119,372 |
| | 4 | Fuel | - | 20,000 | 20,000 | - | 20,600 | 20,600 | - | 21,218 | 21,218 |
| | 5 | Maintenance Cost | - | 19,000 | 19,000 | - | 21,630 | 21,630 | - | 22,279 | 22,279 |
| | 6 | Depreciation | - | 52,720 | 52,720 | - | 52,720 | 52,720 | - | 52,720 | 52,720 |
| | 7 | Commerical Tax | 85 | 259,200 | 259,710 | 103 | 313,632 | 314,250 | 125 | 379,495 | 380,245 |
| | 8 | Distribution Expenses | - | 8,000 | 8,000 | - | 8,240 | 8,240 | - | 8,487 | 8,487 |
| | 9 | Packaging / Auxiliary Materials | - | 5,000 | 5,000 | - | 5,150 | 5,150 | - | 5,305 | 5,305 |
| | 10 | Miscelleneous | - | 1,000 | 1,000 | - | 1,030 | 1,030 | - | 1,061 | 1,061 |
| | | **Total Expenditure** | **121** | **2,608,522** | **2,609,249** | **139** | **2,876,408** | **2,877,242** | **162** | **3,177,963** | **3,178,935** |
| 3 | | **Gross Profit** | 1,094 | (16,522) | (9,959) | 1,331 | 259,912 | 267,899 | 1,618 | 617,081 | 626,789 |
| 4 | | **Income Tax** | - | - | - | - | 77,974 | 77,974 | - | 185,124 | 185,124 |
| 5 | | **Net Profit** | 1,094 | (16,522) | (9,959) | 1,331 | 181,939 | 189,925 | 1,618 | 431,957 | 441,665 |

**Note: Exchange Rate 1 US$ = 6 Kyats**

Commerical Tax = 10% on local Sale

**Depreciation**

| | | |
|---|---|---|
| Factory Building (10% 500,000 (000)) | = | 50,000 (000) |
| Machinery & Equipment (10%* 7,200)(000) | = | 720(000) |
| Furniture & Equipment (10% *20,000 (000) | = | 2,000 (000) |
| **Total** | = | **52,720 (000)** |

နောက်ဆက်တွဲ ( ၉ )

# GRAND PRECIOUS MINE COMPANY LIMITED

## Cash Flow Statement

(Kyat in Thousand)

| PARTICULARS | Construction Period | Operation Period | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|---|
| | 1* | 1 | 2 | 3 | 4 | 5 | 6 | 7 | 8 | 9 | 10 |
| | | Total | Total | Total | Total | Total | Total | Total | Total | Total | Total |
| | Kyats | Kyats | Kyats | Kyats | Kyats | Kyats | Kyats | Kyats | Kyats | Kyats | Kyats |
| CASH IN FLOW | - | 42,761 | 42,761 | 42,761 | 242,645 | 242,645 | 242,645 | 494,385 | 494,385 | 494,385 | 494,385 |
| Net Profit after Tax | | (9,959) | (9,959) | (9,959) | 189,925 | 189,925 | 189,925 | 441,665 | 441,665 | 441,665 | 441,665 |
| Depreciation | | 52,720 | 52,720 | 52,720 | 52,720 | 52,720 | 52,720 | 52,720 | 52,720 | 52,720 | 52,720 |
| Loan | | | | | | | | | | | |
| CASH OUT FLOW | 987,200 | - | - | - | - | - | - | - | - | - | - |
| Capital Contribution | 987,200 | | | | | | | | | | |
| Loan | | | | | | | | | | | |
| Loan Repayment | | | | | | | | | | | |
| NET CASH FLOW | (987,200) | 42,761 | 42,761 | 42,761 | 242,645 | 242,645 | 242,645 | 494,385 | 494,385 | 494,385 | 494,385 |
| Opening Balamce | | (987,200) | (944,439) | (901,677) | (858,916) | (616,270) | (373,625) | (130,980) | 363,405 | 857,790 | 1,352,175 |
| **Accumulative Net Profit** | **(987,200)** | **(944,439)** | **(901,677)** | **(858,916)** | **(616,270)** | **(373,625)** | **(130,980)** | **363,405** | **857,790** | **1,352,175** | **1,846,560** |

**Pay back period = 6 Years 3 Months**

**Exchange Rate 1US$ = 6 Kyats**

| | Kyat | Period |
|---|---|---|
| Year 5-7 | -130980 | 6 years |
| Year 6 = (130980/494385)*12 | -130856 | 3 months |
| | | = 6 Years 3 months |

နောက်ဆက်တွဲ(၁၀)

# GRAND PRECIOUS MINE COMPANY LIMITED

**Calculation of Internal Rate of Return**

**(In Thousand)**

| Year | Net Cash Flow | DF 15% | | DF 20 % | |
|---|---|---|---|---|---|
| | | Rate | PV | Rate | PV |
| 1* | (987,200) | 1 | (987,200) | 1 | -987200 |
| 1 | 42,761 | 0.870 | 37,184 | 0.833 | 35634 |
| 2 | 42,761 | 0.756 | 32,334 | 0.694 | 29695 |
| 3 | 42,761 | 0.658 | 28,116 | 0.579 | 24746 |
| 4 | 242,645 | 0.572 | 138,733 | 0.482 | 117016 |
| 5 | 242,645 | 0.497 | 120,638 | 0.402 | 97514 |
| 6 | 242,645 | 0.432 | 104,902 | 0.335 | 81261 |
| 7 | 494,385 | 0.376 | 185,858 | 0.279 | 137974 |
| 8 | 494,385 | 0.327 | 161,615 | 0.233 | 114978 |
| 9 | 494,385 | 0.284 | 140,535 | 0.194 | 95815 |
| 10 | 494,385 | 0.247 | 122,204 | 0.162 | 79846 |
| | **1,846,560** | | **84,920** | | **(172,719)** |

**Internal Rate of Return = 17%**

Internal Rate of Return = A + (a/(a+b) X (B-A))
= 15+ (84920/257639) *20-15)
= 15+ 0.33*5
= 15+1.65
= 16.65 = 17%

A= the Lowest Interest Rate
B= the Highest Interest Rate
a= Positive NPV
b= Negative NPV

Exchange Rate 1US$ = 6 Kyats

**************************************
***          ERROR TX REPORT          ***
**************************************

| JOB NO. | MODE | NO. | DESTINATION TEL/ID | START TIME | PAGE | RESULT |
|---|---|---|---|---|---|---|
| 1740 | TX ECM | 001 | | 11/12 17:55 | 000 | NG 00'59 |
| | | | 00F7:ERROR DURING TX | | | |

# GRAND PRECIOUS MINE COMPANY LIMITED

## Projected Profit and Loss Statement

( Kyat in Thousand)

| Sr. No. | | PARTICULARS | Year 4 | | | Year 5 | | | Year 6-10 | | |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | US$ | Kyats | Total (Kyats) | US$ | Kyats | Total (Kyats) | US$ | Kyat | Total (Kyats) |
| 1 | | **INCOME** | | | | | | | | | |
| | | Local | - | 3,816,243 | 3,816,243 | - | 4,407,527 | 4,407,527 | - | 5,090,500 | 5,090,500 |
| | | Export | 1,790 | - | 10,741 | 2,068 | - | 12,410 | 2,389 | - | 14,334 |
| | | **Total** | **1,790** | **3,816,243** | **3,826,984** | **2,068** | **4,407,527** | **4,419,937** | **2,389** | **5,090,500** | **5,104,834** |
| 2 | | **EXPENDITURE** | | | | | | | | | |
| | 1 | Raw Materials (Sugar Cane) | - | 2,766,730 | 2,766,730 | - | 2,905,070 | 2,905,070 | - | 3,050,330 | 3,050,330 |
| | 2 | Raw Materials (Chemical) | - | 31,018 | 31,018 | - | 33,974 | 33,974 | - | 37,155 | 37,155 |
| | 3 | Labour | 36 | 115,680 | 115,896 | 36 | 115,680 | 115,896 | 37 | 119,150 | 119,371 |
| | 4 | Fuel | - | 21,855 | 21,855 | - | 22,511 | 22,511 | - | 23,186 | 23,186 |
| | 5 | Maintenance Cost | - | 20,762 | 20,762 | - | 21,385 | 21,385 | - | 22,027 | 22,027 |
| | 6 | Depreciation | - | 57,609 | 57,609 | - | 59,337 | 59,337 | - | 61,117 | 61,117 |
| | 7 | Commerical Tax | 125 | 381,624 | 382,374 | 145 | 440,753 | 441,623 | 167 | 509,050 | 510,052 |
| | 8 | Distribution Expenses | - | 8,742 | 8,742 | - | 9,004 | 9,004 | - | 9,274 | 9,274 |
| | 9 | Pakaging/Auxiliary Materials | - | 5,464 | 5,464 | - | 5,628 | 5,628 | - | 5,797 | 5,797 |
| | 10 | Miscelleneous | - | 1,093 | 1,093 | - | 1,126 | 1,126 | - | 1,160 | 1,160 |
| | | **Total Expenditure** | **161** | **3,410,577** | **3,411,543** | **181** | **3,614,468** | **3,615,554** | **204** | **3,838,246** | **3,839,469** |
| 3 | | **Gross Profit** | 1,629 | 405,666 | 415,441 | 1,887 | 793,059 | 804,383 | 2,185 | 1,252,254 | 1,265,365 |
| 4 | | **Income Tax** | - | 121,700 | 121,700 | - | 237,918 | 237,918 | - | 375,676 | 375,676 |
| 5 | | **Net Profit** | 1,629 | 283,966 | 293,741 | 1,887 | 555,141 | 566,465 | 2,185 | 876,578 | 889,689 |

**Note: Exchange Rate 1 US$ = 6 Kyats**

Commerical Tax = 10% on local Sale

**Depreciation**

Factory Building (10% 500,000 (000)) = 50,000 (000)

Machinery & Equipment (10%* 7,200)(000) = 720(000)

Furniture & Equipment (10% *20,000 (000) = 2,000 (000)

**Total = 52,720 (000)**

နောက်ဆက်တွဲ ( ၉ )

# GRAND PRECIOUS MINE COMPANY LIMITED

## Cash Flow Statement

(Kyat in Thousand)

| PARTICULARS | Construction Period | Operation Period | | | | | | | | | |
|---|---|---|---|---|---|---|---|---|---|---|---|
| | 1* | 1 | 2 | 3 | 4 | 5 | 6 | 7 | 8 | 9 | 10 |
| | | Total | Total | Total | Total | Total | Total | Total | Total | Total | Total |
| | Kyats | Kyats | Kyats | Kyats | Kyats | Kyats | Kyats | Kyats | Kyats | Kyats | Kyats |
| CASH IN FLOW | - | (346,892) | (125,145) | 143,453 | 346,461 | 619,185 | 942,409 | 942,409 | 942,409 | 942,409 | 942,409 |
| Net Profit after Tax | | (399,612) | (177,865) | 90,733 | 293,741 | 566,465 | 889,689 | 889,689 | 889,689 | 889,689 | 889,689 |
| Depreciation | | 52,720 | 52,720 | 52,720 | 52,720 | 52,720 | 52,720 | 52,720 | 52,720 | 52,720 | 52,720 |
| Loan | | | | | | | | | | | |
| CASH OUT FLOW | 987,200 | - | - | - | - | - | - | - | - | - | - |
| Capital Contribution | 987,200 | | | | | | | | | | |
| Loan | | | | | | | | | | | |
| Loan Repayment | | | | | | | | | | | |
| NET CASH FLOW | (987,200) | (346,892) | (125,145) | 143,453 | 346,461 | 619,185 | 942,409 | 942,409 | 942,409 | 942,409 | 942,409 |
| Opening Balamce | | (987,200) | (1,334,092) | (1,459,236) | (1,315,784) | (969,323) | (350,138) | 592,271 | 1,534,681 | 2,477,090 | 3,419,499 |
| **Accumulative Net Profit** | **(987,200)** | **(1,334,092)** | **(1,459,236)** | **(1,315,784)** | **(969,323)** | **(350,138)** | **592,271** | **1,534,681** | **2,477,090** | **3,419,499** | **4,361,909** |

**Pay back period = 6 Years 4 Months**

**Exchange Rate 1US$ = 6 Kyats**

| | **Kyat** | **Period** |
|---|---|---|
| Year 5-7 | -350138 | 6 years |
| Year 6 = (350138/942409)*12 | -350138 | 4 months |
| | | = 6 Years 4 months |

နောက်ဆက်တွဲ(၁၀)

# GRAND PRECIOUS MINE COMPANY LIMITED

## Calculation of Internal Rate of Return

(In Thousand)

| Year | Net Cash Flow | DF 20% | | DF 25 % | |
|---|---|---|---|---|---|
| | | Rate | PV | Rate | PV |
| 1* | (987,200) | 1 | (987,200) | 1 | -987200 |
| 1 | (346,892) | 0.833 | (289,076) | 0.800 | -277513 |
| 2 | (125,145) | 0.694 | (86,906) | 0.640 | -80093 |
| 3 | 143,453 | 0.579 | 83,017 | 0.512 | 73448 |
| 4 | 346,461 | 0.482 | 167,082 | 0.410 | 141910 |
| 5 | 619,185 | 0.402 | 248,837 | 0.328 | 202895 |
| 6 | 942,409 | 0.335 | 315,611 | 0.262 | 247047 |
| 7 | 942,409 | 0.279 | 263,009 | 0.210 | 197638 |
| 8 | 942,409 | 0.233 | 219,174 | 0.168 | 158110 |
| 9 | 942,409 | 0.194 | 182,645 | 0.134 | 126488 |
| 10 | 942,409 | 0.162 | 152,204 | 0.107 | 101190 |
| | **4,361,909** | | **268,396** | | **(96,080)** |

**Internal Rate of Return = 24%**

Internal Rate of Return = A + (a/(a+b) X (B-A))

= 20+ (268396/364476) *25-20)

= 20+ 0.74*5

= 20+3.70

= 23.70 = 24%

A= the Lowest Interest Rate

B= the Highest Interest Rate

a= Positive NPV

b= Negative NPV

Exchange Rate 1US$ = 6 Kyats

# GRAND PRECIOUS MINE COMPANY LIMITED

## Detailed Statement of Income and Expenditure

(In Thousand)

| Sr. No. | Particulars | Year 1 | |
|---|---|---|---|
| | | Kyat | Total Kyat |
| 1 | **INCOME** | | |
| | **Sugar Income** | **2483766** | **2483766** |
| 2 | **Expenditure** | | |
| | Raw Materials (Sugar Cane) | 2,390,000 | 2,390,000 |
| | Raw Materials (Chemical) | 23,596 | 23,596 |
| | Labour | 115,896 | 115,896 |
| | Fuel | 20,000 | 20,000 |
| | Maintenance Cost | 19,000 | 19,000 |
| | Depreciation | 52,720 | 52,720 |
| | Commerical Tax | 248,166 | 248,166 |
| | Distribution Expenses | 8000 | 8000 |
| | Pakaging/Auxiliary Materials | 5000 | 5000 |
| | Miscelleneous | 1,000 | 1,000 |
| | **Total Expenditure** | **2,883,378** | **2,883,378** |
| 3 | **Gross Profit** | **(399,612)** | **(399,612)** |
| 4 | **Income Tax** | - | - |
| 5 | **Net Profit** | **(399,612)** | **(399,612)** |

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဇွန် လ ၂၀ ရက်

အကြောင်းအရာ။ **Grand Precious Mine Co., Ltdမှ တစ်နေ့လျှင် တန်(၁၀၀၀)ကျ ထုတ်လုပ်နိုင်သော သကြားစက်ရုံ တည်ဆောက်ပြီး သကြားထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ**

၁။ Grand Precious Mine Co., Ltd မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီး ရှိမြေ (၂၇.၁၅) ဧကတွင် ကြံစိုက်ပျိုး၍ တစ်နေ့ တန်(၁၀၀၀)ကျ သကြားစက်ရုံ တည်ဆောက်ပြီး သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကို လက်ခံရရှိ ခဲ့ပါသည်။

၂။ ယင်းအဆိုပြုချက် နှင့်စပ်လျဉ်း၍ ရှမ်းပြည်နယ် အစိုးရအဖွဲ့နှင့် လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာနတို့သို့ (၁၈-၁၁-၂၀၁၁) ရက်စွဲပါစာများဖြင့် သဘောထားများ တောင်းခံခဲ့ရာ လယ်ယာ စိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာနမှ (၁၄-၆-၂၀၁၂) ရက်စွဲပါစာဖြင့် သဘောထား ပြန်ကြားခဲ့ပါသည်။ အလံ "၁"

၃။ သို့ရာတွင် ရှမ်းပြည်နယ် အစိုးရအဖွဲ့သို့ (၁၈-၁၁-၂၀၁၁) ရက်စွဲပါစာဖြင့် လည်းကောင်း၊ (၂၂-၂-၂၀၁၂) ရက်စွဲပါစာဖြင့် လည်းကောင်း သဘောထား တောင်းခံခဲ့ရာ ယနေ့တိုင် သဘောထား ပြန်ကြားလာခြင်း မရှိသေးပါ။ အလံ "၂" အလံ "၃"

၄။ ရှမ်းပြည်နယ် အစိုးရအဖွဲ့၏ သဘောထား အခြေအနေ နှင့်စပ်လျဉ်း၍ ကုမ္ပဏီအား မေးမြန်းရာ ကုမ္ပဏီမှ ဒါရိုက်တာဖြစ်သူ ဦးအောင်ဆန်းမှ (၁၄-၆-၂၀၁၂)နေ့တွင် အောက်ပါအတိုင်း လာရောက်ဆွေးနွေး ပြောကြားပါသည်-

(က) ကုမ္ပဏီအနေဖြင့် ရှမ်းပြည်နယ်အစိုးရအဖွဲ့နှင့် ဆက်သွယ် ဆောင်ရွက်ရာတွင် မြေစာရင်း ပုံစံ(၁၀၅)နှင့် လ/န(၃၉)ရရှိပြီးပါက သဘောထား မှတ်ချက် ထုတ်ပေးမည်ဖြစ်ပါကြောင်း၊

(ခ) မြေစာရင်း ပုံစံ(၁၀၅)နှင့် လ/န(၃၉)ရရှိရေးအတွက် တွဲဖက်ပြည်နယ် မြေစာရင်း ဦးစီးဌာနသို့ အမှုတွဲချပေးထားပြီး ဖြစ်ပါကြောင်း၊

(ဂ) ယခုအခါ တွဲဖက် ပြည်နယ် မြေစာရင်း ဦးစီးဌာနမှ မြေစာရင်း ပုံစံ(၁၀၅)ရေးကူးခွင့်ချမှတ် ပေးမည်ဖြစ်ပြီး မြေစာရင်း ပုံစံ(၁၀၅)ရေးကူးပြီးမှသာ အမှုတွဲတည်ဆောက်၍ လ/န (၃၉)ထုတ်ပေးမည် ဖြစ်ပါကြောင်း၊

(ဃ) သို့ရာတွင် ကုမ္ပဏီမှ သဘောထားမှတ်ချက် တောင်းခံထားသည်မှာ အလွန်ကြာမြင့်နေပြီ ဖြစ်ပါကြောင်း မြေစာရင်း ဦးစီးဌာနသို့တင်ပြရာ မြေစာရင်း

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ဦးစီးဌာနမှ ကုမ္ပဏီအနေဖြင့် သဘောထားမှတ်ချက် တောင်းခံခြင်းနှင့် စပ်လျဉ်း၍ အမှာစာဖြင့် ထပ်မံတင်ပြရန်နှင့် ထိုသို့တင်ပြပါက ရှမ်းပြည်နယ် အစိုးရအဖွဲ့ ၏ အစည်းအဝေးသို့ တင်ပြ၍ သဘောထား ပြန်ကြားပေးမည် ဖြစ်ပါကြောင်း ရှင်းလင်းပြောကြားပါသည်။

၅။ သို့ဖြစ်ပါ၍ Grand Precious Mine Co., Ltd မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာ အနီးရှိမြေ (၂၇.၁၅) ဧကတွင် ကြံစိုက်ပျိုး၍ တစ်နေ့ တန် (၁၀၀၀)ကျ သကြားစက်ရုံ တည်ဆောက်ပြီး သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စနှင့် စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းအတွက် စီးပွားရေးဆိုင်ရာ တွက်ချက်မှုများမှာ ပြည့်စုံနေပြီး ရှမ်းပြည်နယ် အစိုးရအဖွဲ့၏ သဘောထား မှတ်ချက်မှာ ယနေ့တိုင် ပြန်ကြားလာခြင်း မရှိသေးပါသဖြင့် ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်အတွက် လမ်းညွှန်မှု ပြုပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

[illegible] 2016

(နှင်းဖြူထွေး)
ဒုတိယဦးစီးမှူး

**လက်ထောက်ညွှန်ကြားရေးမှူး**

[illegible]

၆။ [illegible]

[illegible] 21/6

[illegible]

[illegible]

[illegible]

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဖက်(စ)၉၅-၆၇-၄ဝ၆၁၆၁ တယ်လီဖုန်း-ဝ၆၇-၄ဝ၆၁၃၉၊ ၄ဝ၆၁၆၁

စာအမှတ်၊ ရက-၆(က) / မ- ၁၁၉၃ / ၂၀၁၁(၁၃၅၄၉ )
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ နိုဝင်ဘာ လ ၁၈ ရက်

သို့

ဝန်ကြီးချုပ်
ရှမ်းပြည်နယ်အစိုးရအဖွဲ့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည်ညွှန်းချက် ။ တန်ဖိုးကြီးမားသော သတ္တုတွင်း ကုမ္ပဏီ လီမိတက်(Grand Precious Mine Co., Ltd) ၏ (၁၄-၁၁-၂၀၁၁) ရက်စွဲပါစာ

၁။ တန်ဖိုးကြီးမားသော သတ္တုတွင်း ကုမ္ပဏီ လီမိတက်(Grand Precious Mine Co., Ltd) မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီး ရှိ မြေ (၅၂.၄၉) ဧက တွင် တစ်နေ့ တန်(၁၀၀၀)ကျ သကြား ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြခြင်းကို လက်ခံရရှိခဲ့ပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၃)၊ အပိုဒ်(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရက ထောက်ခံချက်ပေးရာတွင် ဝန်ကြီးချုပ်ကိုယ်တိုင် စိစစ် လက်မှတ်ရေးထိုးပြီး ထောက်ခံပေးပါရန် နိုင်ငံတော် သမ္မတရုံး၏ ရည်ညွှန်းချက်ပါ စာပိုဒ် ၃(စ)တွင် ဖော်ပြထားပါသည်။

၄။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ အချက်များအပေါ် သဘောထား မှတ်ချက်အား ပြန်ကြားပေးပါရန် အဆိုပြုချက် (တစ်)စောင် ပူးတွဲလျှက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်-

(က) ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/မဖြစ်၊

| | | |
|---|---|---|
| ၂။ | ဒေါက်တာဝါဝါမောင် | အဖွဲ့ဝင် |
| | ညွှန်ကြားရေးမှူး | |
| | နိုင်ငံခြားစီးပွားဆက်သွယ်ရေး ဦးစီးဌာန | |
| | အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။ | |
| ၃။ | ဦးကျော်ဇွန်း | အဖွဲ့ဝင် |
| | ~~ကျွမ်းကျင်သူ~~ | |
| | ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန | |
| | အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။ | |
| ၄။ | ဦးကိုကိုလတ် | အဖွဲ့ဝင် |
| | ဒုတိယ ညွှန်ကြားရေးမှူး | |
| | ပြည်တွင်းအခွန်များ ဦးစီးဌာန | |
| | ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။ | |
| ၅။ | ဦးအောင်အောင်ခိုင် | အဖွဲ့ဝင် |
| | လက်ထောက်ညွှန်ကြားရေးမှူး | |
| | အကောက်ခွန်ဦးစီးဌာန | |
| | ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။ | |
| ၆။ | ဒေါ်မြသူဇာ | အဖွဲ့ဝင် |
| | လက်ထောက်ညွှန်ကြားရေးမှူး | |
| | မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန | |
| | ဆောက်လုပ်ရေးဝန်ကြီးဌာန။ | |
| ၇။ | ဦးလှထွန်း | အဖွဲ့ဝင် |
| | လက်ထောက်ညွှန်ကြားရေးမှူး | |
| | ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန | |
| | စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန။ | |

၈။ ညွှန်ကြားရေးမှူးချုပ်
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
အမှတ်(၁)စက်မှုဝန်ကြီးဌာန

၉။ ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့စားသောက်ကုန်လုပ်ငန်း
အမှတ်(၁)စက်မှုဝန်ကြီးဌာန

၁၀။ ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့စိုက်ပျိုးရေးလုပ်ငန်း
လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန

မိတ္တူ -

- အဖွဲ့ခေါင်းဆောင်
- ဒုတိယအဖွဲ့ခေါင်းဆောင်

} သိရှိနိုင်ပါရန် တင်ပြအပ်ပါသည်။

- ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ဖက်(စ)၉၅-၆၇-၄၀၆၁၀၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊ ၄၀၆၁၀၆၁

စာအမှတ်၊ ရက-၆(က) / မ-၁၁၉၃/၂၀၁၂(　　　)

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ မေ လ　　　ရက်

အကြောင်းအရာ။ **လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်း ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အရ အဆိုပြုချက် ပြင်ဆင်ပေးပါရန် ကိစ္စ**

ရည်ညွှန်းချက် ။ (၁) တန်ဖိုးကြီးမားသော သတ္တုတွင်းကုမ္ပဏီ လီမိတက် (Grand Precious Mine Co.,Ltd.)၏(၁၄-၁၁-၂၀၁၁) ရက်စွဲပါစာ

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၈-၁၁-၂၀၁၁)ရက်စွဲပါစာအမှတ်၊ ရက-၆(က) / မ-၁၁၉၃/၂၀၁၁(၁၄၁၅၀)

(၃) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏(၂၆-၄-၂၀၁၂) ရက်စွဲပါ စာအမှတ်၊ ၁၁/Grand Precious (၂၅၉/၂၀၁၂)

၁။ တန်ဖိုးကြီးမားသော သတ္တုတွင်း ကုမ္ပဏီ လီမိတက်(Grand Precious Mine Co., Ltd) မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီး ရှိ မြေ (၅၂.၄၉) ဧက တွင် တစ်နေ့ တန်(၁၀၀၀)ကျ သကြား ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြခြင်းကို လက်ခံရရှိခဲ့ပါသည်။

၂။ ယင်းအဆိုပြုချက် နှင့်စပ်လျဉ်း၍ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန သို့ ရည်ညွှန်းချက်(၂)ပါစာဖြင့် သဘောထားတောင်းခံခဲ့ရာ ရည်ညွှန်းချက်(၃)ပါစာဖြင့် အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(က) ရှမ်းပြည်နယ်မြောက်ပိုင်း မူဆယ်မြို့နယ် နန့်အွန်ကျေးရွာအနီးတွင် ယာမြေနှင့် တောရိုင်းမြေ ဧရိယာ (၂၇.၁၅)ဧက ကိုရရှိနိုင်ပါကြောင်း၊

(ခ) သကြားထုတ်လုပ်ရာတွင် ကျန်းမာရေးနှင့် ကိုက်ညီမှုရှိမရှိ စစ်ဆေးရန် $SO_2$ ပါဝင်မှုကို သတ်မှတ်သင့်ပါကြောင်း၊

(ဂ) စက်တန်ဖိုးဖော်ပြထားရာတွင် တန်(၁၀၀၀) သကြားစက်အတွက် စက်ကိရိယာဝယ်ယူရန် နိုင်ငံခြားငွေ(၁.၂)သန်းသာ ဖော်ပြထားပါကြောင်း၊ အဆိုပါတန်ဖိုးမှာ ထုတ်လုပ်မှု ဒီဇိုင်းဖိုး ပါဝင်မှုမရှိခြင်းနှင့် စက်ကိရိယာအားလုံးအား နိုင်ငံခြားမှ

တင်သွင်းမှုနှင့် ပြည်တွင်းပစ္စည်း  တွဲဖက်သုံး ခြင်း(သို့မဟုတ်) စက်ကိရိယာအားလုံး အသစ်များမဖြစ်နိုင်ကြောင်း၊

(ဃ) ပြည်တွင်းသကြားမှာ လက်ရှိပေါက်စျေးထက် နိမ့်ကျလျှက်ရှိပြီး Export စျေးခန့်မှန်း ချက်မှာ  အနည်းငယ်မြင့်မားနေပါကြောင်း၊

၃။ သို့ဖြစ်ပါ၍  လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့် အညီ လိုအပ်ချက်များအားပြင်ဆင်ပြီး ကော်မရှင်သို့  ပေးပို့ပါရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ခေတ္တညွှန်ကြားရေးမှူးချုပ်)

မိတ္တူ  -

- ဝန်ကြီးရုံး
  လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန။
- ညွှန်ကြားရေးမှူးချုပ်၊
  စိုက်ပျိုးရေး စီမံကိန်းဦးစီးဌာန။
- ဦးဆောင်ညွှန်ကြားရေးမှူး
  မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်း။
- တန်ဖိုးကြီးမားသော သတ္တုတွင်းကုမ္ပဏီ လီမိတက် (Grand Precious  Mine Co.,Ltd.)
  ထံ သိရှိနိုင်ပါရန်နှင့် သဘောထား ရရှိရေးအတွက် သက်ဆိုင်ရာဌာနများနှင့် ဆက်သွယ်ညှိနှိုင်း ဆောင်ရွက်ပါရန် အကြောင်းကြားပါသည်။
- ရုံးလက်ခံ / မျှောစာတွဲ။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ရကေ-၆(က)/မ-၁၁၉၃/၂၀၁၂(၁၁၈၉၉-၈)

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ ၂၅ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Grand Precious Mine Co., Ltd မှ တစ်ရက်လျှင် ကြံတန်(၁၀၀၀)ကျ သကြားစက်ရုံ တည်ဆောက်ပြီး သကြားထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်း ကိစ္စ**

၁။ မြန်မာကုမ္ပဏီ ဖြစ်သော Grand Precious Mine Co., Ltd မှ မူဆယ်မြို့နယ် မြေစာရင်းဦးစီးဌာနမှ ဦးရန်ကွယ်ကျိန်း အမည်ဖြင့် အသုံးပြုခွင့်ရရှိ ထားသော ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာ၊ ကွင်းအမှတ်(ပြင်ပ)၊ ဦးပိုင်အမှတ်(N-1+တောရိုင်းမြေ) ရှိမြေ စုစုပေါင်း (၂၇.၁၅)ဧကတွင် တစ်ရက်လျှင် ကြံတန်ချိန် (၁၀၀၀)ကျ သကြားစက်ရုံ တည်ဆောက်ပြီး သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်ဆန်း (အဘ- ဦးအန်ဆန်း) မှ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်နှင့် စပ်လျဉ်း၍ ရှမ်းပြည်နယ် အစိုးရအဖွဲ့နှင့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနတို့သို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါ အတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ရှမ်းပြည်နယ် အစိုးရအဖွဲ့** ။ Grand Precious Mine Co., Ltd မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ ပူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာ အနီးရှိမြေ (၅၂.၄၉)ဧကတွင် တစ်ရက်လျှင် တန်(၁၀၀၀) ကျ သကြား ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ ပုံမှန်အစည်းအဝေး အမှတ်စဉ် (၁၆/၂၀၁၂)၊ ဆုံးဖြတ်ချက် အပိုဒ်-၈(၁-ဌ)အရ **သတ်မှတ်ထားသော လုပ်ထုံးလုပ်နည်းများ နှင့်အညီ** ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း၊ **(နောက်ဆက်တွဲ-က)**

(ခ) **လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** ။ Grand Precious Mine Co., Ltd မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာ အနီးရှိမြေ (၅၂.၄၉)ဧကတွင် တစ်ရက်လျှင် တန်(၁၀၀၀) ကျ သကြား ထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း ၊ **(နောက်ဆက်တွဲ - ခ)**

၃။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၅/၂၀၁၂)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-**(နောက်ဆက်တွဲ - ဂ)**

(က) ဒေသဆိုင်ရာ အစိုးရအဖွဲ့၏ သဘောထား မှတ်ချက်ကို အဓိကအချက်များ ဖော်ပြ၍ ပြန်လည်တောင်းခံရန်၊

(ခ) အဆိုပြုလုပ်ကိုင်မည့် မြေနေရာကို လန(၃၉) ရရှိရန် သက်ဆိုင်ရာ ဌာနများမှ ထောက်ခံချက်များဖြင့် ပြန်လည်တင်ပြရန်၊

(ဂ) လုပ်ငန်း၏ စီးပွားရေး တွက်ချေကိုက်မှု ရှိ/မရှိကို တွက်ချက် သုံးသပ်ပြီးမှ ပြန်လည် တင်ပြရန်၊

၄။ အထက်ပါအစည်းအဝေး ဆုံးဖြတ်ချက်အရ ရှမ်းပြည်နယ် အစိုးရအဖွဲ့သို့ သဘောထား တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်**(နောက်ဆက်တွဲ-ဃ)**-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် မြို့ပြစီမံကိန်းနှင့် ညီညွတ်မှုရှိ/မရှိနှင့် စပ်လျဉ်း၍ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် သကြား စက်ရုံလျှောက်ထားသည့် မြေနေရာသည် လယ်ယာကဏ္ဍထက် စက်မှုကဏ္ဍပါဝင်မှု အချိုးအစား နည်းနေမှု အပေါ် တိုးတက်မြင့်မားလာရေး အတွက် တစ်ဖက်တစ်လမ်းမှ ဖြည့်ဆည်းရာရောက် သဖြင့် မြို့ပြစီမံကိန်းနှင့် ညီညွတ်မှုရှိပါကြောင်း၊

(ခ) ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်မှု ရှိ/မရှိ နှင့် စပ်လျဉ်း၍ သကြားစက်ရုံ အဆိုပြု နေရာသည် နမ့်အွမ်ကျေးရွာနှင့် အနည်းငယ်ဝေးသော မြေပြန့်တွင် ဆောင်ရွက် မည်ဖြစ်သဖြင့် ကျေးရွာ၏ ပညာရေး၊ ကျန်းမာရေး၊ စီးပွားရေးအပေါ် အကျိုးသက်ရောက် ထိခိုက်မှုရှိနိုင်မည့် အခြေအနေမတွေ့ရဘဲ ဒေသတွင်းရှိ ပြည်သူ များ အလုပ်အကိုင် အခွင့်အလမ်းရရှိနိုင်ခြင်း၊ ကြံစိုက်ပျိုးခြင်းဖြင့် တောင်သူ များ အကျိုးအမြတ်ရရှိစေပြီး ပြည်သူတို့၏ လူမှုစီးပွားရေးကို အထောက်အကူ ရရှိ စေပါကြောင်း၊

(ဂ) သဘာဝ ပတ်ဝန်းကျင်ထိခိုက်မှု ရှိ/မရှိ နှင့် စပ်လျဉ်း၍ သကြားစက်ရုံ တည်ဆောက် မည့် လုပ်ကွက်ဧရိယာသည် သစ်တောကြိုးဝိုင်း၊ ကြိုးပြင်ကာကွယ်တော၊ သစ်တော စိုက်ခင်း ဧရိယာအတွင်း ကျရောက်မှုမရှိပါကြောင်း၊ စက်ရုံမှ ထွက်ရှိသော စွန့်ပစ် ပစ္စည်းများအား နမ့်မွေးချောင်းအတွင်းသို့ ယိုစိမ့်မှုမရှိစေရန် ထိန်းသိမ်းပြုပြင်မည့် အစီအမံများ ဆောင်ရွက်သွား မည်ဆိုပါက သစ်တော၊ သစ်ပင်၊ မြေဆီလွှာ နှင့် သဘာဝပတ်ဝန်းကျင်ကို ထိခိုက်မှု မရှိနိုင်ပါကြောင်း၊

(ဃ) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်/မဖြစ် နှင့်စပ်လျဉ်း၍ မူဆယ်မြို့နယ်လူဦးရေ၏ (၁%)နီးပါးမှာ အလုပ်လက်မဲ့များဖြစ်ပြီး သကြားစက်ရုံစီမံကိန်း ပြီးစီးပါက အလုပ် အကိုင် အခွင့်အလမ်းအားဖြင့် အလုပ်သမား (၁၅၀)ဦး ခန့် လုပ်ကိုင်ဆောင်ရွက်နိုင်

မည်ဖြစ်ရာ တစ်ဦးချင်း ဝင်ငွေမြင့်မားလာမည်ဖြစ်ပါသည်။ ကျေးလက်ဒေသ ဖွံ့ဖြိုးရေးနှင့် ဆင်းရဲမှုလျှော့ချရေး လုပ်ငန်းစဉ်နှင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက်အထောက်အကူဖြစ်စေနိုင်ပါကြောင်း၊

(င) မြေယာသုံးစွဲခြင်း အဆင်ပြေမှု ရှိ/မရှိ နှင့်စပ်လျဉ်း၍ သကြားစက်ရုံ လျှောက်ထားသည့် နေရာတွင် ပါဝင်သည့် နမ့်အွန်ကျေးရွာအုပ်စု၊ ကွင်းပြင်ပ ဦးပိုင်အမှတ်(N-1)၊ ယာမြေ(၆.၀၀)ဧကမှာ ယခင် ကြက်ဆူခင်းအဖြစ် လုပ်ကိုင်ခွင့် ရရှိခဲ့ပြီး စိုက်ပျိုးဖြစ်ထွန်းမှု နည်းသော မြေဖြစ်ကြောင်းနှင့် ကျန်မြေမှာအစိုးရမှ စီမံခန့်ခွဲပိုင်ခွင့် ရှိသော တောရိုင်းမြေ(၂၁.၁၅)ဧက ရှိကြောင်းတွေ့ရှိရသဖြင့် မြေယာသုံးစွဲခြင်း အဆင်ပြေမှု ရှိပါကြောင်း၊

(စ) Grand Precious Mine Co., Ltd မှ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာ အနီးရှိမြေ(၂၇.၁၅)ဧကတွင် တစ်ရက်လျှင် တန်ချိန်(၁၀၀၀)ကျ သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြလာခြင်း အပေါ် ကန့်ကွက်ရန် မရှိပါကြောင်း၊

၅။ လုပ်ငန်း အဆိုပြုချက်ကို **(နောက်ဆက်တွဲ - င)**ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၂၀)သန်းအပါအဝင် ကျပ် (၂၃၂၆.၇၈) သန်း ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | | **ကျပ် ၂၃၂၆.၇၈ သန်း (US$ ၁.၂၀သန်း အပါအဝင်)** |
|---|---|---|
| (က) | ငွေသား | |
| | | ၁၀၀.၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ | ၁၄၈၅.၂၀ (US$ ၁.၂၀ သန်းအပါအဝင် ) |
| (ဂ) | ဒီဇိုင်းနှင့် စက်တပ်ဆင်စရိတ် | ၂၀၀.၀၀ |
| (ဃ) | အဆောက်အဦ | ၅၀၀.၀၀ |
| (င) | မြေ | ၁၀.၀၀ |
| (စ) | ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | ၂၀.၀၀ |
| (ဆ) | ကုန်ကြမ်းပစ္စည်းတန်ဖိုး | ၁၁.၅၈ |

၆။ လျှပ်စစ်ဓါတ်အားကို မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်းမှ ရယူမည့်အပြင် ကိုယ်ပိုင်မီးစက်(၅၀၀KW)ဖြင့် ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ထုတ်လုပ်မည့် သကြားအမျိုးအစားများနှင့် ပြည်တွင်း၊ ပြည်ပ ရောင်းချမှု၊ ဈေးနှုန်းတို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| အမျိုးအမည် | ထုတ်လုပ်မှု (တန်) | ပြည်တွင်း ရောင်း(တန်) (၈၀%) | ပြည်ပ ရောင်း(တန်) (၂၀%) | ဈေးနှုန်း | |
|---|---|---|---|---|---|
| | | | | ကျပ်/တန် | US$/တန် |
| Refined Sugar (သန့်စင်သကြား) | ၆၃၁၅ | ၅၀၅၂ | ၁၂၆၃ | ၅၂၅၀၅၀ | ၇၈၈ |

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေ မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**အမေရိကန်တစ်ဒေါ်လာ= ၈၂၁ ကျပ်**

| | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|
| ဝင်ငွေ | ၀.၉၉၅ | ၈၁၆.၈၉ | ၂၆၅၂.၅၅ | ၃၄၆၉.၄၄ |
| အသုံးစရိတ် + ကုန်သွယ်လုပ်ငန်း ခွန်+ ဝင်ငွေခွန် | ၀.၀၃၆ | ၂၉.၅၅ | ၃၁၃၈.၀၅ | ၃၁၆၇.၆၀ |
| အသားတင်အမြတ် | ၀.၉၅၉ | ၇၈၇.၃၄ | (-)၄၈၅.၅၀ | ၃၀၁.၈၄ |

၉။ နိုင်ငံတော်မှ ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ် ( ၁၃၂.၆၃) သန်း ဝင်ငွေခွန် ကျပ် (၁၀၀.၆၁) သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၇)နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ (၁၃)ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၀။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၂၀၀)ဦးနှင့် ပြည်ပလုပ်သား(၃)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ဝန်ထမ်း သက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် ဆေးပေးခန်းထားရှိခြင်း၊ ဝန်ထမ်း သားသမီးများ၏ ပညာရေးအတွက် မူလတန်းကျောင်းဖွင့်လှစ်ပေးခြင်း၊ အလုပ်သမား ဝန်ကြီးဌာနမှ ချမှတ်ထားသော ဝန်ထမ်းစည်းမျဉ်းအတိုင်း ဆောင်ရွက်ခြင်း၊ အခါအားလျော်စွာ ဖျော်ဖြေရေးအစီအစဉ်များ စီစဉ်ပေးခြင်းတို့ကိုစီစဉ်ပေးထားပါကြောင်း ကုမ္ပဏီမှ တင်ပြ ထားပါသည်။

၁၁။ စက်ရုံစွန့်ပစ်ရေ သန့်စင်ခြင်းစနစ် (Waste Water Treatment) နှင့်စပ်လျဉ်း၍ စက်ရုံအတွင်းရှိ ဘွိုင်လာမှထုတ်ပေးသော ရေနွေးငွေ့(Super heated steam)အား Boiler feed water တွင်ပြန်၍ အသုံးပြုခြင်း၊ Impure condensate ကို သကြားထုတ်လုပ်ရန် ရေနွေးလိုအပ်သော နေရာတွင် ပြန်လည်အသုံးပြုခြင်းဖြင့် (Waste Water Volume) ကိုလျော့ချစေပါကြောင်း၊ စွန့်ပစ်ရေမှာ ကြံ (၁)တန် ကြိတ်ဝါးလျှင် စွန့်ပစ်ရေ 0.16 $m^3$ မှ 0.76 $m^3$ အထိထွက်ရှိပြီး အဆိုပါ

စွန့်ပစ်ရေတွင် ပတ်ဝန်းကျင်ကို ထိခိုက်စေနိုင်သော B.O.D (Bio chemical Oxygen Demand) 1000mg/lit ခန့်ပါဝင်နေသဖြင့် B.O.D 100mg/lit ထက်လျော့နည်းအောင် ပြုလုပ်ပြီးမှသာ စွန့်ပစ်သင့်ပါကြောင်း၊ အဆိုပါ B.O.D 100mg/lit အောက်ရှိသော စွန့်ပစ်ရေကို ကြံစိုက်ခင်းများ ရေသွင်းစိုက်ပျိုးရာတွင် ပြန်လည်အသုံးပြုနိုင်ပါကြောင်း၊ စက်ရုံဘွိုင်လာများ၏လောင်စာမှကြံဖတ် ကိုအသုံးပြုပြီး ၊ ဘွိုင်လာခေါင်းတိုင်စွန့်ပစ်လေတွင် Air Pollution ဖြစ်စေသော unburm bagasse များ၊ ကာဗွန်အမှုန့်များ၊ အောက်ဆီဂျင် ၊ နိုင်ထြိုဂျင်၊ ကာဗွန်မိုနောက်ဆိုဒ်၊ ဆာလဖာများ ပါဝင်နိုင်သဖြင့် ဘွိုင်လာ၏ Combustion chamber ၊ Design နှင့် operation များကို သေချာစွာ စိစစ်ခြင်းဖြင့် unburm bagasse များ ကာဗွန်မိုနောက်ဆိုဒ်များကို လျော့ချနိုင်မည် ဖြစ်ပါကြောင်း၊ Fly Ash များနှင့် Air Pollution ကိုဖြစ်စေသော အမှုန့်အမွှားများကို wet collectors (မီးခိုးခေါင်းတိုင်မှ မထွက်မီ ရေဖြန်းချနည်းများ) multi cyclones များဖြင့် တပ်ဆင်ပြီး Air Pollution မဖြစ်အောင် ထိန်းချုပ်သွားမည်ဖြစ်ပါကြောင်း ကုမ္ပဏီမှတင်ပြထားပါသည်။

၁၂။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် အာရှစိမ်းလန်းမှု ဖွံ့ဖြိုးရေး ဘဏ်လီမိတက်ရှိ (၃၀-၁၂-၂၀၁၂) နေ့ရှိ ငွေလက်ကျန် ကျပ်(၁၀၀၅.၁၇၅)သန်း နှင့် ယူနိုက်တက် အမရ ဘဏ်လီမိတက်ရှိ (၁၇-၅-၂၀၁၂)နေ့ရှိ ငွေလက်ကျန် ကျပ်(၆၅၀.၀၀)သန်း စုစုပေါင်း ကျပ် (၁၆၅၅.၁၇၅)သန်း ရှိကြောင်း တင်ပြထားပါသည်။သုံးစွဲရန် ငွေကျပ် (၁၃၄၁.၅၈) သန်း အတွက် ဘဏ်လက်ကျန် လုံလောက်မှုရှိကြောင်း နှင့် နိုင်ငံခြားငွေ အထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် MFTB ဘဏ်ရှိ (၁၄-၂-၂၀၁၂) နေ့ရှိ နိုင်ငံခြားငွေ လက်ကျန် အမေရိကန်ဒေါ်လာ (၀.၈၄) သန်း တင်ပြထားပါသည်။ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများတန်ဘိုး US$ (၁.၂၀)သန်း တင်ပြထားရာ သုံးစွဲရန်ငွေ၏ (၇၀%) တင်ပြထားကြောင်း စိစစ်ရပါသည်။

၁၃။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်နှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိမည် ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၅။ **စိစစ်တင်ပြချက်**

(က) အဆိုပါ သဘောထားများအရ ရှမ်းပြည်နယ် အစိုးရအဖွဲ့နှင့် လယ်ယာ စိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာန တို့မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ် ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာ အနီးရှိ မြေ(၂၇.၁၅)ဧကတွင် သကြားထုတ်လုပ်ခြင်း



Grand Precious Mic(Sec)

လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်း ကိစ္စနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိကြောင်း တင်ပြထားပါသည်။

(ခ) ကုမ္ပဏီမှ သကြားထုတ်လုပ်ရန် ကုန်ကြမ်းဖြစ်သော ကြံများကို ရှမ်းပြည်နယ်၊ မူဆယ်ခရိုင်ရှိမြေ (၅၁၂) ဧက တွင် ကိုယ်တိုင်စိုက်ပျိုးမည်ဖြစ်ကြောင်း၊ အဆိုပါ ကြံစိုက်ပျိုးမည့် မြေများနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

| စဉ် | မြေပိုင်ရှင်အမည် | အကြောင်းအရာ | မြေဧက |
|---|---|---|---|
| ၁ | ဦးမောင်စိုး+၂ | ငှါးရမ်းမည်ဖြစ်ပါသည်။ | ၃၀ |
| ၂ | ဦးလျှောက်မြင်ယုံ | ငှါးရမ်းမည်ဖြစ်ပါသည်။ | ၁၆ |
| ၃ | မြန်မာနိုင်ငံ ရဲတပ်ဖွဲ့၊ရွှေပြည်သစ် လူငယ်ပျိုးထောင်ရေး ဌာန | အကျိုးတူစိုက်ပျိုးမည်ဖြစ်ပါသည်။ | ၁၄၅ |
| ၄ | ဦးချန်မြင့် | အကျိုးတူစိုက်ပျိုးမည်ဖြစ်ပါသည်။ | ၁၆၀ |
| | **စုစုပေါင်း** | | **၃၅၂** |

(ဂ) ကြံစိုက်ပျိုးမည့် မြေ(၅၁၂)ဧကအနက် (၃၅၂)ဧကအတွက်သာ အထောက်အထား တင်ပြထားပါသည်။ ကျန်မြေ(၁၆၀)ဧကအတွက် အထောက်အထား တောင်းခံရာ တောင်သူအချို့အား စိုက်စရိတ်၊ မျိုး၊ မြေဩဇာ၊ ပိုးသတ်ဆေး စသည့် သွင်းအားစုများ ပံ့ပိုးပြီး စိုက်ပျိုးစေမည်ဖြစ်ကြောင်း သိရှိရပါသည်။

(ဃ) ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် စပ်လျဉ်း၍ ကုမ္ပဏီမှ ဆောင်ရွက်မှု အစီအစဉ် စက်ရုံစွန့်ပစ်ရေ သန့်စင်ခြင်းစနစ် (Waste Water Treatment) ကို ပူးတွဲတင်ပြထားပါသည်။

၁၆။ သို့ဖြစ်ပါ၍ Grand Precious Mine Co., Ltd မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်တွင် တစ်ရက်လျှင် ကြံတန်(၁၀၀၀)ကျ သကြားစက်ရုံ တည်ဆောက်၍ သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း အပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ

နောက်ဆက်တွဲ(က)

ရုံးတံဆိပ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

စာအမှတ်၊ (ဖအာ ၁၃)/၃ - ၆၀၆(စည်းဝေး)/အစရ(ရှမ်း)
ရက် စွဲ ၊ ၂၀၁၂ ခုနှစ် ၊ ဩဂုတ်လ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပေးပို့တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၆-၆-၂၀၁၂)ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/ မ-၁၁၉၃/၂၀၁၂ (၈၂၇၃-၃၁)

တန်ဖိုးကြီးမားသောသတ္တုတွင်းကုမ္ပဏီလီမိတက်မှ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီးရှိ မြေဧရိယာ(၅၂. ၄၉)ဧကတွင် တစ်နေ့တန်(၁၀၀၀)ကျ သကြားထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ နေပြည်တော်မှ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ညှိနှိုင်းလာမှုအပေါ် ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ ပုံမှန်အစည်းအဝေးအမှတ်စဉ်(၁၆/၂၀၁၂)၊ ဆုံးဖြတ်ချက်အပိုဒ်-၈(၁-ဋ)အရ သတ်မှတ်ထားသော လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပေးပို့အပ်ပါသည်။

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)
(စိုင်းဆာလူ၊ စိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး)

မိတ္တူကို
ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ မူဆယ်မြို့
တန်ဖိုးကြီးမားသောသတ္တုတွင်းကုမ္ပဏီလီမိတက်၊ ချမ်းမြသာစည်မြို့နယ်၊ မန္တလေးမြို့
ရုံးလက်ခံ
မျှောစာတွဲ

နောက်ဆက်တွဲ (ခ)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊၁၁/ Grand Precious (၃၉၇/၂၀၁၂)
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဇွန်လ ၂၄ ရက်။

အကြောင်းအရာ။ **Grand Precious Mine Co Ltd မှ တစ်ရက်လျှင် တန် (၁၀၀၀) ကြိတ်ဝါးနိုင်သော သကြားစက်ရုံတည်ဆောက်ကာ ကြံစိုက်ပျိုး၍ သကြားထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်တင်ပြခြင်းကိစ္စ။**

ရည်ညွှန်းချက်။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈.၁၁.၁၁) ရက်စွဲပါ စာအမှတ် ရက-၆(က)/မ-၁၁၉၃ / ၂၀၁၁(၁၄၁၅၀)။
(၂)လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏(၂၆.၄.၁၂) ရက်စွဲပါ စာအမှတ် ၁၁/ Grand Precious(၂၅၉ /၁၂)
(၃) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃.၅.၁၂) ရက်စွဲပါ စာ အမှတ် ရက-၆(က)/မ-၁၁၉၃ / ၂၀၁၂ (၆၇၈၆-ည)။

၁။ တန်ဘိုးကြီးမားသော သတ္တု တွင်း ကုမ္ပဏီလီမိ တက် (Grand Precious Mine Co Ltd) မှ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်မြို့နယ်၊ နန့်အွန်ကျေးရွာအနီးရှိ မြေ(၅၂.၄၉)ဧက တွင် တစ်ရက်လျှင် တန်(၁၀၀၀) ကြိတ်ဝါးနိုင်သော သကြားစက်ရုံ တည်ဆောက်ကာ သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်း(၁)ပါစာဖြင့် တင်ပြလာခြင်းအားရည်ညွှန်း(၂)ပါစာဖြင့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ပေးပို့ခဲ့ပါသည်။

၂။ ဆက်လက်၍ ယင်းသဘောထား မှတ်ချက်များနှင့်အညီ ကုမ္ပဏီမှ ပြင်ဆင်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်လည်တင်ပြလာခြင်းများအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်မှ ရည်ညွှန်း (၃) ပါစာဖြင့် ထပ်မံမေတ္တာရပ်ခံလာပါသည်။

၃။ သို့ပါ၍ Grand Precious Mine Co Ltd မှ လယ်ယာစိုက်ပျိုးရေး နှင့်ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များနှင့်အညီ ပြင်ဆင်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်လည် တ င်ပြလာခြင်းများအပေါ် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီး ဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(ကျော်ရွှေ၊ ရုံးအဖွဲ့မှူး)

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။**

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊စိုက်ပျိုးရေးစီမံကိန်းဦးစီးဌာန။
- ရုံးလက်ခံ၊

နောက်ဆက်တွဲ (ဂ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

ဖက်(စ)-၆၇-၄၀၆၁၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊၄၀၆၁၆၁

စာအမှတ်၊ ရက-၆(က)/ မ-၁၁၉၃/ ၂၀၁၂(၁၇၈၄)-၃၁
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဩဂုတ် လ ၂၀ ရက်

အကြောင်းအရာ။ **Grand Precious Mine Co., Ltd မှ တစ်ရက်လျှင် ကြံတန်(၁၀၀၀)ကျ သကြားစက်ရုံ တည်ဆောက်ပြီး သကြားထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Grand Precious Mine Co., Ltd ၏ (၁၄-၁၁-၂၀၁၁) ရက်စွဲပါ တင်ပြစာ

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ Grand Precious Mine Co., Ltd မှ ရည်ညွှန်းပါစာဖြင့် တင်ပြလာခြင်းကို (၁၅-၆-၂၀၁၂)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂၅/၂၀၁၂)ကြိမ်မြောက်အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်း အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) ဒေသဆိုင်ရာ အစိုးရအဖွဲ့၏ သဘောထား မှတ်ချက်ကို အဓိကအချက်များ ဖော်ပြ၍ ပြန်လည်တောင်းခံရန်၊

(ခ) အဆိုပြုလုပ်ကိုင်မည့် မြေနေရာကို လန(၃၉) ရရှိရန် သက်ဆိုင်ရာ ဌာနများမှ ထောက်ခံချက်များဖြင့် ပြန်လည်တင်ပြရန်၊

(ဂ) လုပ်ငန်း၏ စီးပွားရေး တွက်ချေကိုက်မှု ရှိ/မရှိကို တွက်ချက် သုံးသပ်ပြီးမှ ပြန်လည်တင်ပြရန်၊

၃။ သို့ဖြစ်ပါ၍ အထက်ပါအစည်းအဝေး ဆုံးဖြတ်ချက်အား သိရှိနိုင်ပါရန်နှင့် လိုအပ်သကဲ့သို့ ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

**မန်နေဂျင်းဒါရိုက်တာ**
**Grand Precious Mine Co., Ltd**

မိတ္တူ-

- ညွှန်ကြားရေးမှူးချုပ်
  စိုက်ပျိုးရေးစီမံကိန်းဦးစီးဌာန
- ဦးဆောင်ညွှန်ကြားရေးမှူး
  မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်း

- ဦးဆောင်ညွှန်ကြားရေးမှူး
  မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း
- ရုံးလက်ခံ/ မျှောစာတွဲ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ /၂၀၁၂ (မနသ)
နေပြည်တော်၊ ၁၃၇၄ ခုနှစ်၊ တော်သလင်းလပြည့်ကျော် ရက်
(၂၀၁၂ ခုနှစ်၊ အောက်တိုဘာ လ ရက်)

၁။ မြန်မာ ကုမ္ပဏီဖြစ်သော Grand Precious Mine Co., Ltd. မှ ဦးရန်ကွယ်ကျိန်း အမည်ဖြင့် အသုံးပြုခွင့်ရရှိ ထားသော ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာ၊ ကွင်းအမှတ် (ပြင်ပ)၊ ဦးပိုင်အမှတ်(N-1 + တောရိုင်း မြေ) ရှိမြေ (၂၇.၁၅)ဧကတွင် တစ်ရက်လျှင် ကြံတန်(၁၀၀၀)ကျ သကြားစက်ရုံ တည်ဆောက်ပြီး သကြား ထုတ်လုပ်ခြင်း လုပ်ငန်း ကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက် အား(၁၀-၁၀-၂၀၁၂)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏(၁၁/၂၀၁၂) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် Grand Precious Mine Co., Ltd. အား တစ်ရက်လျှင် ကြံတန်(၁၀၀၀)ကျ သကြားစက်ရုံ တည်ဆောက်ပြီး သကြား ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၈၆၂/၂၀၁၂ ကို ထုတ်ပေးလိုက်သည်။

၂။ Grand Precious Mine Co., Ltd. အနေဖြင့် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ယင်း ဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်း ချက်များ နှင့်အညီ အောက် ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု တွင် ပါဝင်သော နိုင်ငံခြား ငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြ လျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ၁၃(ခ)အရလုပ်ငန်းက နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေ ဖြင့်ရရှိသည့် အမြတ်ငွေ ပေါ်တွင် (၅၀%) အထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေ

ခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ်ခံစားပြီး နောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည့်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဥ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှတင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ)နှင့်(ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု

စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Grand Precious Mine Co., Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင် အထည်ဖော်ရမည်။

၅။ Grand Precious Mine Co., Ltd. သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ Grand Precious Mine Co., Ltd.၏ မတည်ငွေရင်း ထည့်ဝင်မှုတွင် ကုမ္ပဏီ၏ ဒါရိုက်တာ ဦးရန်ကွယ်ကျိန်း အမည်ပေါက်မြေကို အစုရှယ်ယာအဖြစ် ထည့်ဝင်မည် ဖြစ်ရာ ကုမ္ပဏီ၏ အစုရှယ်ယာ ထည့်ဝင်မှုကိစ္စများ ဆောင်ရွက်ပြီးစီးသည့် အချိန်တွင် အဆိုပါ မြေကွက်အား Grand Precious Mine Co., Ltd.၏ အမည်ပေါက် ဖြစ်စေရေးအတွက် မူဆယ် မြို့နယ် မြေစာရင်း ဦးစီးဌာနသို့ လျှောက်ထား ဆောင်ရွက်ရမည်။ လန/၃၉ အထောက်အထား ရရှိပါက မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင် ပြရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၈။ Grand Precious Mine Co., Ltd. မှ သကြားထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ရာတွင် ကျန်းမာရေး ဝန်ကြီးဌာန၊ အစားအသောက် နှင့် ဆေးဝါးကွပ်ကဲရေး ဌာန (FDA) ၏ GMP ထောက်ခံချက်ရယူ ဆောင်ရွက်ရမည်။

၉။ Grand Precious Mine Co., Ltd. မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များ နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ အလုပ်သမားများ သက်သာ ချောင်ချိရေး နှင့် လုပ်ငန်းခွင် သာယာရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ် ဆောင်ရွက်ရမည်။

၁၀။ Grand Precious Mine Co., Ltd. သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီ

အမ်များကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၁။ Grand Precious Mine Co., Ltd. သည် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၂။ Grand Precious Mine Co., Ltd. သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤ ကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေအနေ များကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လတစ်ကြိမ် (ဧပြီ / အောက်တိုဘာလများ) **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံ ရမည်။ အဆိုပြု လုပ်ငန်း ၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ် ) တို့ ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၄။ Grand Precious Mine Co., Ltd. သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေး တွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံပိတ်သိမ်းနိုင်ရေးအတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့် အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူ ရမည်။

(စိုးသိန်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၁၉၃/၂၀၁၂(                )
ရက် စွဲ ၊ ၂၀၁၂ ခုနှစ် ၊ အောက်တိုဘာ လ        ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
စက်မှု ဝန်ကြီးဌာန
ကျန်းမာရေး ဝန်ကြီးဌာန
ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
အလုပ်သမား ဝန်ကြီးဌာန
ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန
လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန
လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
ပြည်နယ်အစိုးရအဖွဲ့၊ရှမ်းပြည်နယ်(မြောက်ပိုင်း)

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ကျန်းမာရေးဦးစီးဌာန(အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဌာန)
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း
အုပ်ချုပ်မှုဒါရိုက်တာ၊ Grand Precious Mine Co., Ltd.

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ရက-၆(က)/မ-၁၁၉၃/၂၀၁၂(၁၁၈၉၉ ·၈)

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ ၂၅ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Grand Precious Mine Co., Ltd မှ တစ်ရက်လျှင် ကြံတန်(၁၀၀၀)ကျ သကြားစက်ရုံ တည်ဆောက်ပြီး သကြားထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်း ကိစ္စ**

၁။ မြန်မာကုမ္ပဏီ ဖြစ်သော Grand Precious Mine Co., Ltd မှ မူဆယ်မြို့နယ် မြေစာရင်း ဦးစီးဌာနမှ ဦးရန်ကွယ်ကျိန်း အမည်ဖြင့် အသုံးပြုခွင့်ရရှိ ထားသော ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာ၊ ကွင်းအမှတ်(ပြင်ပ)၊ ဦးပိုင်အမှတ်(N-1+တောရိုင်းမြေ) ရှိမြေ စုစုပေါင်း (၂၇.၁၅)ဧကတွင် တစ်ရက်လျှင် ကြံတန်ချိန် (၁၀၀၀)ကျ သကြားစက်ရုံ တည်ဆောက်ပြီး သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးအောင်ဆန်း (အဘ- ဦးအန်ဆန်း) မှ အဆိုပြု တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်နှင့် စပ်လျဉ်း၍ ရှမ်းပြည်နယ် အစိုးရအဖွဲ့နှင့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနတို့သို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါ အတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ရှမ်းပြည်နယ် အစိုးရအဖွဲ့** ။ Grand Precious Mine Co., Ltd မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာ အနီးရှိမြေ (၅၂.၄၉)ဧကတွင် တစ်ရက်လျှင် တန်(၁၀၀၀) ကျ သကြား ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ ပုံမှန်အစည်းအဝေး အမှတ်စဉ် (၁၆/၂၀၁၂)၊ ဆုံးဖြတ်ချက် အပိုဒ်-၈(၁-ဠ)အရ **သတ်မှတ်ထားသော** လုပ်ထုံးလုပ်နည်းများ **နှင့်အညီ** ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း၊ **(နောက်ဆက်တွဲ-က)**

(ခ) **လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန** ။ Grand Precious Mine Co., Ltd မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာ အနီးရှိမြေ (၅၂.၄၉)ဧကတွင် တစ်ရက်လျှင် တန်(၁၀၀၀) ကျ သကြား ထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း ၊ **(နောက်ဆက်တွဲ - ခ)**

၃။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဥ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၅/၂၀၁၂)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-**(နောက်ဆက်တွဲ - ဂ)**

(က) ဒေသဆိုင်ရာ အစိုးရအဖွဲ့၏ သဘောထား မှတ်ချက်ကို အဓိကအချက်များ ဖော်ပြ၍ ပြန်လည်တောင်းခံရန်၊

(ခ) အဆိုပြုလုပ်ကိုင်မည့် မြေနေရာကို လန(၃၉) ရရှိရန် သက်ဆိုင်ရာ ဌာနများမှ ထောက်ခံချက်များဖြင့် ပြန်လည်တင်ပြရန်၊

(ဂ) လုပ်ငန်း၏ စီးပွားရေး တွက်ချေကိုက်မှု ရှိ/မရှိကို တွက်ချက် သုံးသပ်ပြီးမှ ပြန်လည်တင်ပြရန်၊

၄။ အထက်ပါအစည်းအဝေး ဆုံးဖြတ်ချက်အရ ရှမ်းပြည်နယ် အစိုးရအဖွဲ့သို့ သဘောထား တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်**(နောက်ဆက်တွဲ-ဃ)**-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် မြို့ပြစီမံကိန်းနှင့် ညီညွတ်မှုရှိ/မရှိနှင့် စပ်လျဥ်း၍ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် သကြား စက်ရုံလျှောက်ထားသည့် မြေနေရာသည် လယ်ယာကဏ္ဍထက် စက်မှုကဏ္ဍပါဝင်မှု အချိုးအစား နည်းနေမှု အပေါ် တိုးတက်မြင့်မားလာရေး အတွက် တစ်ဖက်တစ်လမ်းမှ ဖြည့်ဆည်းရာရောက် သဖြင့် မြို့ပြစီမံကိန်းနှင့် ညီညွတ်မှုရှိပါကြောင်း၊

(ခ) ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်မှု ရှိ/မရှိ နှင့် စပ်လျဥ်း၍ သကြားစက်ရုံ အဆိုပြု နေရာသည် နမ့်အွမ်ကျေးရွာနှင့် အနည်းငယ်ဝေးသော မြေပြန့်တွင် ဆောင်ရွက် မည်ဖြစ်သဖြင့် ကျေးရွာ၏ ပညာရေး၊ ကျန်းမာရေး၊ စီးပွားရေးအပေါ် အကျိုးသက်ရောက် ထိခိုက်မှုရှိနိုင်မည့် အခြေအနေမတွေ့ရဘဲ ဒေသတွင်းရှိ ပြည်သူ များ အလုပ်အကိုင် အခွင့်အလမ်းရရှိနိုင်ခြင်း၊ ကြံစိုက်ပျိုးခြင်းဖြင့် တောင်သူ များ အကျိုးအမြတ်ရရှိစေပြီး ပြည်သူတို့၏ လူမှုစီးပွားရေးကို အထောက်အကူ ရရှိ စေပါကြောင်း၊

(ဂ) သဘာဝ ပတ်ဝန်းကျင်ထိခိုက်မှု ရှိ/မရှိ နှင့် စပ်လျဥ်း၍ သကြားစက်ရုံ တည်ဆောက် မည့် လုပ်ကွက်ဧရိယာသည် သစ်တောကြိုးဝိုင်း၊ ကြိုးပြင်ကာကွယ်တော၊ သစ်တော စိုက်ခင်း ဧရိယာအတွင်း ကျရောက်မှုမရှိပါကြောင်း၊ စက်ရုံမှ ထွက်ရှိသော စွန့်ပစ် ပစ္စည်းများအား နမ့်မွေးချောင်းအတွင်းသို့ ယိုစိမ့်မှုမရှိစေရန် ထိန်းသိမ်းပြုပြင်မည့် အစီအမံများ ဆောင်ရွက်သွား မည်ဆိုပါက သစ်တော၊ သစ်ပင်၊ မြေဆီလွှာ နှင့် သဘာဝပတ်ဝန်းကျင်ကို ထိခိုက်မှု မရှိနိုင်ပါကြောင်း၊

(ဃ) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်/မဖြစ် နှင့်စပ်လျဥ်း၍ မူဆယ်မြို့နယ်လူဦးရေ၏ (၁%)နီးပါးမှာ အလုပ်လက်မဲ့များဖြစ်ပြီး သကြားစက်ရုံစီမံကိန်း ပြီးစီးပါက အလုပ် အကိုင် အခွင့်အလမ်းအားဖြင့် အလုပ်သမား (၁၅၀)ဦး ခန့် လုပ်ကိုင်ဆောင်ရွက်နိုင်

မည်ဖြစ်ရာ တစ်ဦးချင်း ဝင်ငွေမြင့်မားလာမည်ဖြစ်ပါသည်။ ကျေးလက်ဒေသ ဖွံ့ဖြိုးရေးနှင့် ဆင်းရဲမှုလျော့ချရေး လုပ်ငန်းစဉ်နှင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက်အထောက်အကူဖြစ်စေနိုင်ပါကြောင်း၊

(င) မြေယာသုံးစွဲခြင်း အဆင်ပြေမှု ရှိ/မရှိ နှင့်စပ်လျဉ်း၍ သကြားစက်ရုံ လျှောက်ထားသည့် နေရာတွင် ပါဝင်သည့် နမ့်အွန်ကျေးရွာအုပ်စု၊ ကွင်းပြင်ပ ဦးပိုင်အမှတ်(N-1)၊ ယာမြေ(၆.၀၀)ဧကမှာ ယခင် ကြက်ဆူခင်းအဖြစ် လုပ်ကိုင်ခွင့် ရရှိခဲ့ပြီး စိုက်ပျိုးဖြစ်ထွန်းမှု နည်းသော မြေဖြစ်ကြောင်းနှင့် ကျန်မြေမှာအစိုးရမှ စီမံခန့်ခွဲပိုင်ခွင့် ရှိသော တောရိုင်းမြေ(၂၁.၁၅)ဧက ရှိကြောင်းတွေ့ရှိရသဖြင့် မြေယာသုံးစွဲခြင်း အဆင်ပြေမှု ရှိပါကြောင်း၊

(စ) Grand Precious Mine Co., Ltd မှ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာ အနီးရှိမြေ (၂၇.၁၅)ဧကတွင် တစ်ရက်လျှင် တန်ချိန်(၁၀၀၀)ကျ သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် တင်ပြလာခြင်း အပေါ် ကန့်ကွက်ရန် မရှိပါကြောင်း၊

၅။ လုပ်ငန်း အဆိုပြုချက်ကို **(နောက်ဆက်တွဲ - င)**ဖြင့် ဖော်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၁.၂၀)သန်းအပါအဝင် ကျပ် (၂၃၂၆.၇၈) သန်း ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမည့် အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| **<u>စုစုပေါင်းရင်းနှီးမြှုပ်နှံမှု</u>** | **<u>ကျပ် ၂၃၂၆.၇၈ သန်း</u> (US$ ၁.၂၀သန်း အပါအဝင်)** | |
| (က) | ငွေသား | ၁၀၀.၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာများ | ၁၄၈၅.၂၀ (US$ ၁.၂၀ သန်းအပါအဝင် ) |
| (ဂ) | ဒီဇိုင်းနှင့် စက်တပ်ဆင်စရိတ် | ၂၀၀.၀၀ |
| (ဃ) | အဆောက်အဦ | ၅၀၀.၀၀ |
| (င) | မြေ | ၁၀.၀၀ |
| (စ) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၂၀.၀၀ |
| (ဆ) | ကုန်ကြမ်းပစ္စည်းတန်ဖိုး | ၁၁.၅၈ |

၆။ လျှပ်စစ်ဓါတ်အားကို မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်းမှ ရယူမည့်အပြင် ကိုယ်ပိုင်မီးစက် (၅၀၀KW)ဖြင့် ထားရှိဆောင်ရွက်မည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ထုတ်လုပ်မည့် သကြားအမျိုးအစားများနှင့် ပြည်တွင်း၊ ပြည်ပ ရောင်းချမှု၊ ဈေးနှုန်းတို့မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| အမျိုးအမည် | ထုတ်လုပ်မှု (တန်) | ပြည်တွင်း ရောင်း(တန်) (၈၀%) | ပြည်ပ ရောင်း(တန်) (၂၀%) | ဈေးနှုန်း | |
|---|---|---|---|---|---|
| | | | | ကျပ်/တန် | US$/တန် |
| Refined Sugar (သန့်စင်သကြား) | ၆၃၁၅ | ၅၀၅၂ | ၁၂၆၃ | ၅၂၅၀၅၀ | ၇၈၈ |

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေ မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

**အမေရိကန်တစ်ဒေါ်လာ= ၈၂၀ ကျပ်**

| | နိုင်ငံခြားငွေဖြင့် US$(သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် ကျပ်(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|
| ဝင်ငွေ | ၀.၉၉၅ | ၈၁၆.၈၉ | ၂၆၅၂.၅၅ | ၃၄၆၉.၄၄ |
| အသုံးစရိတ် + ကုန်သွယ်လုပ်ငန်းခွန်+ ဝင်ငွေခွန် | ၀.၀၃၆ | ၂၉.၅၅ | ၃၁၃၈.၀၅ | ၃၁၆၇.၆၀ |
| အသားတင်အမြတ် | ၀.၉၅၉ | ၇၈၇.၃၄ | (-)၄၈၅.၅၀ | ၃၀၁.၈၄ |

၉။ နိုင်ငံတော်မှ ပုံမှန်နှစ်(၅)နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ် ( ၁၃၂.၆၃) သန်း ဝင်ငွေခွန် ကျပ် (၁၀၀.၆၁) သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၇)နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ (၁၃)ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၀။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား (၂၀၀)ဦးနှင့် ပြည်ပလုပ်သား(၃)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ဝန်ထမ်း သက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် ဆေးပေးခန်းထားရှိခြင်း၊ ဝန်ထမ်း သားသမီးများ၏ ပညာရေးအတွက် မူလတန်းကျောင်းဖွင့်လှစ်ပေးခြင်း၊ အလုပ်သမား ဝန်ကြီးဌာနမှ ချမှတ်ထားသော ဝန်ထမ်းစည်းမျဉ်းအတိုင်း ဆောင်ရွက်ခြင်း၊ အခါအားလျော်စွာ ဖျော်ဖြေရေးအစီအစဉ်များ စီစဉ်ပေးခြင်းတို့ကိုစီစဉ်ပေးထားပါကြောင်း ကုမ္ပဏီမှ တင်ပြ ထားပါသည်။

၁၁။ စက်ရုံစွန့်ပစ်ရေ သန့်စင်ခြင်းစနစ် (Waste Water Treatment) နှင့်စပ်လျဉ်း၍ စက်ရုံအတွင်းရှိ ဘွိုင်လာမှထုတ်ပေးသော ရေနွေးငွေ့(Super heated steam)အား Boiler feed water တွင်ပြန်၍ အသုံးပြုခြင်း၊ Impure condensate ကို သကြားထုတ်လုပ်ရန် ရေနွေးလိုအပ်သော နေရာတွင် ပြန်လည်အသုံးပြုခြင်းဖြင့် (Waste Water Volume) ကိုလျှော့ချစေပါကြောင်း၊ စွန့်ပစ်ရေမှာ ကြံ (၁)တန် ကြိတ်ဝါးလျှင် စွန့်ပစ်ရေ 0.16 $m^3$ မှ 0.76 $m^3$ အထိထွက်ရှိပြီး အဆိုပါ

စွန့်ပစ်ရေတွင် ပတ်ဝန်းကျင်ကို ထိခိုက်စေနိုင်သော B.O.D (Bio chemical Oxygen Demand) 1000mg/lit ခန့်ပါဝင်နေသဖြင့် B.O.D 100mg/lit ထက်လျော့နည်းအောင် ပြုလုပ်ပြီးမှသာ စွန့်ပစ်သင့်ပါကြောင်း၊ အဆိုပါ B.O.D 100mg/lit အောက်ရှိသော စွန့်ပစ်ရေကို ကြံစိုက်ခင်းများ ရေသွင်းစိုက်ပျိုးရာတွင် ပြန်လည်အသုံးပြုနိုင်ပါကြောင်း၊ စက်ရုံဘွိုင်လာများ၏လောင်စာမှုကြံဖတ်ကိုအသုံးပြုပြီး ၊ ဘွိုင်လာခေါင်းတိုင်စွန့်ပစ်လေတွင် Air Pollution ဖြစ်စေသော unburm bagasse များ၊ ကာဗွန်အမှုန့်များ၊ အောက်ဆီဂျင် ၊ နိုင်တြိုဂျင်၊ ကာဗွန်မိုနောက်ဆိုဒ်၊ ဆာလဖာများ ပါဝင်နိုင်သဖြင့် ဘွိုင်လာ၏ Combustion chamber ၊ Design နှင့် operation များကို သေချာစွာ စိစစ်ခြင်းဖြင့် unburm bagasse များ ကာဗွန်မိုနောက်ဆိုဒ်များကို လျော့ချနိုင်မည်ဖြစ်ပါကြောင်း၊ Fly Ash များနှင့် Air Pollution ကိုဖြစ်စေသော အမှုန့်အမွှားများကို wet collectors (မီးခိုးခေါင်းတိုင်မှ မထွက်မီ ရေဖြန်းချနည်းများ) multi cyclones များဖြင့် တပ်ဆင်ပြီး Air Pollution မဖြစ်အောင် ထိန်းချုပ်သွားမည်ဖြစ်ပါကြောင်း ကုမ္ပဏီမှတင်ပြထားပါသည်။

၁၂။ ငွေကြေး အထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် အာရှစိမ်းလန်းမှု ဖွံ့ဖြိုးရေး ဘဏ်လီမိတက်ရှိ (၃၀-၁၂-၂၀၁၂) နေ့ရှိ ငွေလက်ကျန် ကျပ်(၁၀၀၅.၁၇၅)သန်း နှင့် ယူနိုက်တက် အမရ ဘဏ်လီမိတက်ရှိ (၁၇-၅-၂၀၁၂)နေ့ရှိ ငွေလက်ကျန် ကျပ်(၆၅၀.၀၀)သန်း စုစုပေါင်း ကျပ် (၁၆၅၅.၁၇၅)သန်း ရှိကြောင်း တင်ပြထားပါသည်။သုံးစွဲရန် ငွေကျပ် (၁၃၄၁.၅၈) သန်း အတွက် ဘဏ်လက်ကျန် လုံလောက်မှုရှိကြောင်း နှင့် နိုင်ငံခြားငွေ အထောက်အထားအဖြစ် ကုမ္ပဏီ အမည်ဖြင့် MFTB ဘဏ်ရှိ (၁၄-၂-၂၀၁၂) နေ့ရှိ နိုင်ငံခြားငွေ လက်ကျန် အမေရိကန်ဒေါ်လာ (၀.၈၄) သန်း တင်ပြထားပါသည်။ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများတန်ဘိုး US$ (၁.၂၀)သန်း တင်ပြထားရာ သုံးစွဲရန်ငွေ၏ (၇၀%) တင်ပြထားကြောင်း စိစစ်ရပါသည်။

၁၃။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်နှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန်အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိမည် ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့်ပြုရပါမည်။

၁၅။ စိစစ်တင်ပြချက်

(က) အဆိုပါ သဘောထားများအရ ရှမ်းပြည်နယ် အစိုးရအဖွဲ့နှင့် လယ်ယာ စိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာန တို့မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ် ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာ အနီးရှိ မြေ(၂၇.၁၅)ဧကတွင် သကြားထုတ်လုပ်ခြင်း

လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်း ကိစ္စနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိကြောင်း တင်ပြထားပါသည်။

(ခ) ကုမ္ပဏီမှ သကြားထုတ်လုပ်ရန် ကုန်ကြမ်းဖြစ်သော ကြံများကို ရှမ်းပြည်နယ်၊ မူဆယ်ခရိုင်ရှိမြေ (၅၁၂) ဧက တွင် ကိုယ်တိုင်စိုက်ပျိုးမည်ဖြစ်ကြောင်း၊ အဆိုပါ ကြံစိုက်ပျိုးမည့် မြေများနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

| စဉ် | မြေပိုင်ရှင်အမည် | အကြောင်းအရာ | မြေဧက |
|---|---|---|---|
| ၁ | ဦးမောင်စိုး+၂ | ငှါးရမ်းမည်ဖြစ်ပါသည်။ | ၃၁ |
| ၂ | ဦးလျှောက်မြင်ယုံ | ငှါးရမ်းမည်ဖြစ်ပါသည်။ | ၁၆ |
| ၃ | မြန်မာနိုင်ငံ ရဲတပ်ဖွဲ့၊ရွှေပြည်သစ် လူငယ်ပျိုးထောင်ရေး ဌာန | အကျိုးတူစိုက်ပျိုးမည်ဖြစ်ပါသည်။ | ၁၄၅ |
| ၄ | ဦးချန်မြင့် | အကျိုးတူစိုက်ပျိုးမည်ဖြစ်ပါသည်။ | ၁၆၀ |
| | **စုစုပေါင်း** | | **၃၅၂** |

(ဂ) ကြံစိုက်ပျိုးမည့် မြေ(၅၁၂)ဧကအနက် (၃၅၂)ဧကအတွက်သာ အထောက်အထား တင်ပြထားပါသည်။ ကျန်မြေ(၁၆၀)ဧကအတွက် အထောက်အထား တောင်းခံရာ တောင်သူအချို့အား စိုက်စရိတ်၊ မျိုး၊ မြေဩဇာ၊ ပိုးသတ်ဆေး စသည့် သွင်းအားစုများ ပံ့ပိုးပြီး စိုက်ပျိုးစေမည်ဖြစ်ကြောင်း သိရှိရပါသည်။

(ဃ) ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် စပ်လျဉ်း၍ ကုမ္ပဏီမှ ဆောင်ရွက်မှု အစီအစဉ် စက်ရုံစွန့်ပစ်ရေ သန့်စင်ခြင်းစနစ် (Waste Water Treatment) ကို ပူးတွဲတင်ပြထားပါသည်။

၁၆။ သို့ဖြစ်ပါ၍ Grand Precious Mine Co., Ltd မှ ရှမ်းပြည်နယ် (မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်တွင် တစ်ရက်လျှင် ကြံတန်(၁၀၀၀)ကျ သကြားစက်ရုံ တည်ဆောက်၍ သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း အပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ - ရုံးလက်ခံ

နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

စာအမှတ်၊ (၆၈၁၁၃)/၃ - ၆၀၆(စည်းဝေး)/အစရ(ရှမ်း)
ရက် စွဲ ၊ ၂၀၁၂ ခုနှစ် ၊ ဩဂုတ်လ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပေးပို့တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၆-၆-၂၀၁၂)ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/ မ-၁၁၉၃/၂၀၁၂(၈၂၇၃-၃၁)

တန်ဖိုးကြီးမားသောသတ္တုတွင်းကုမ္ပဏီလီမိတက်မှ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်ခရိုင်၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီးရှိ မြေဧရိယာ(၅၂. ၄၉)ဧကတွင် တစ်နေ့တန်(၁၀၀၀)ကျ သကြားထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ နေပြည်တော်မှ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ညှိနှိုင်းလာမှုအပေါ် ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ ပုံမှန်အစည်းအဝေးအမှတ်စဉ်(၁၆/၂၀၁၂)၊ ဆုံးဖြတ်ချက်အပိုဒ်-၈(၁-ဥ)အရ သတ်မှတ်ထားသောလုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပေးပို့အပ်ပါသည်။

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)
(စိုင်းဆာလူ၊ စိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး)

မိတ္တူကို

ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ မူဆယ်မြို့
တန်ဖိုးကြီးမားသောသတ္တုတွင်းကုမ္ပဏီလီမိတက်၊ ချမ်းမြသာစည်မြို့နယ်၊ မန္တလေးမြို့
ရုံးလက်ခံ
မှော်စာတွဲ

5/71

နောက်ဆက်တွဲ (ခ)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊၁၁/ Grand Precious (၃၉၇/၂၀၁၂)
ရက်စွဲ၊ ၂၀၁၂ခုနှစ်၊ဇွန်လ ၁၄ ရက်။

အကြောင်းအရာ။ Grand Precious Mine Co Ltd မှ တစ်ရက်လျှင် တန် (၁၀၀၀) ကြိတ်ဝါးနိုင်သော သကြားစက်ရုံတည်ဆောက်ကာ ကြံစိုက်ပျိုး၍ သကြားထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်တင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက်။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈.၁၁.၁၁) ရက်စွဲပါ စာအမှတ် ရက-၆(က)/မ-၁၁၉၃ / ၂၀၁၁(၁၄၁၅၀)။
(၂)လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏(၂၆.၄.၁၂) ရက်စွဲပါ စာအမှတ် ၁၁/ Grand Precious(၂၅၉ /၁၂)
(၃) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၃.၅.၁၂) ရက်စွဲပါ စာ အမှတ် ရက-၆(က)/မ-၁၁၉၃ / ၂၀၁၂ (၆၇၈၆-ည)။

၁။ တန်ဘိုးကြီးမားသော သတ္တု တွင်း ကုမ္ပဏီလီမိ တက် (Grand Precious Mine Co Ltd) မှ ရှမ်းပြည်နယ်(မြောက်ပိုင်း)၊ မူဆယ်မြို့နယ်၊ နန့်အွန်ကျေးရွာအနီးရှိ မြေ(၅၂.၄၉)ဧက တွင် တစ်ရက်လျှင် တန်(၁၀၀၀) ကြိတ်ဝါးနိုင်သော သကြားစက်ရုံ တည်ဆောက်ကာ သကြားထုတ်လုပ်ခြင်း လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်း(၁)ပါစာဖြင့် တင်ပြလာခြင်းအားရည်ညွှန်း(၂)ပါစာဖြင့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ပေးပို့ခဲ့ပါသည်။

၂။ ဆက်လက်၍ ယင်းသဘောထား မှတ်ချက်များနှင့်အညီ ကုမ္ပဏီမှ ပြင်ဆင်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်လည်တင်ပြလာခြင်းများအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်မှ ရည်ညွှန်း (၃) ပါစာဖြင့် ထပ်မံမေတ္တာရပ်ခံလာပါသည်။

၃။ သို့ပါ၍ Grand Precious Mine Co Ltd မှ လယ်ယာစိုက်ပျိုးရေး နှင့်ဆည်မြောင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များနှင့်အညီ ပြင်ဆင်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပြန်လည် တင်ပြလာခြင်းများအပေါ် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီး ဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(ကျော်ရွှေ၊ ရုံးအဖွဲ့မှူး)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊စိုက်ပျိုးရေးစီမံကိန်းဦးစီးဌာန။
- ရုံးလက်ခံ၊

နောက်ဆက်တွဲ (ဂ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

ဖက်(စ)-၆၇-၄၀၆၁၆၁ တယ်လီဖုန်း-၀၆၇-၄၀၆၁၃၉၊၄၀၆၁၆၁

စာအမှတ်၊ ရက-၆(က)/ မ-၁၁၉၃/ ၂၀၁၂(၁၀၇၈၆)-ည၁

ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ ဩဂုတ်လ ၂၀ ရက်

အကြောင်းအရာ။ **Grand Precious Mine Co., Ltd မှ တစ်ရက်လျှင် ကြံတန်(၁၀၀၀)ကျ သကြားစက်ရုံ တည်ဆောက်ပြီး သကြားထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Grand Precious Mine Co., Ltd ၏ (၁၄-၁၁-၂၀၁၁) ရက်စွဲပါ တင်ပြစာ

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ Grand Precious Mine Co., Ltd မှ ရည်ညွှန်းပါစာဖြင့် တင်ပြလာခြင်းကို (၁၅-၆-၂၀၁၂)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၂၅/၂၀၁၂)ကြိမ်မြောက်အစည်းအဝေး၌ တင်ပြခဲ့ပါသည်။

၂။ ယင်း အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) ဒေသဆိုင်ရာ အစိုးရအဖွဲ့၏ သဘောထား မှတ်ချက်ကို အဓိကအချက်များ ဖော်ပြ၍ ပြန်လည်တောင်းခံရန်၊

(ခ) အဆိုပြုလုပ်ကိုင်မည့် မြေနေရာကို လန(၃၉) ရရှိရန် သက်ဆိုင်ရာ ဌာနများမှ ထောက်ခံချက်များဖြင့် ပြန်လည်တင်ပြရန်၊

(ဂ) လုပ်ငန်း၏ စီးပွားရေး တွက်ချေကိုက်မှု ရှိ/မရှိကို တွက်ချက် သုံးသပ်ပြီးမှ ပြန်လည် တင်ပြရန်၊

၃။ သို့ဖြစ်ပါ၍ အထက်ပါအစည်းအဝေး ဆုံးဖြတ်ချက်အား သိရှိနိုင်ပါရန်နှင့် လိုအပ်သကဲ့သို့ ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)

(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မန်နေဂျင်းဒါရိုက်တာ

Grand Precious Mine Co., Ltd

မိတ္တူ-

- ညွှန်ကြားရေးမှူးချုပ်
  စိုက်ပျိုးရေးစီမံကိန်းဦးစီးဌာန
- ဦးဆောင်ညွှန်ကြားရေးမှူး
  မြန်မာ့စက်မှုသီးနှံ ဖွံ့ဖြိုးရေးလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

ရှမ်းပြည်နယ်အစိုးရအဖွဲ့ ရုံးတံဆိပ် တောင်ကြီးမြို့

စာအမှတ်၊ (၈၄၃၆)/ ၃ - ၆၂၈ /အ စ ရ (ရှမ်း)
ရက်စွဲ ၊ ၂၀၁၂ ခုနှစ်၊ စက်တင်ဘာလ ၂၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပေးပို့ခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ (၂၁ - ၈ - ၂၀၁၂)ရက်စွဲပါစာအမှတ်၊ ရက- ၆(က)/ မ-၁၁၉၃ /၂၀၁၂ (၁၀၈၄၃ - ဏ)

၁။ တန်ဖိုးကြီးမားသောသတ္တုတွင်းကုမ္ပဏီလီမိတက်(Grand Precious Mine Co; Ltd)မှ ရှမ်းပြည်နယ် မြောက်ပိုင်း၊ မူဆယ်မြို့နယ်၊ နမ့်အွမ်ကျေးရွာအနီးရှိမြေ (၂၇. ၁၅)ဧကတွင် တစ်နေ့လျှင် တန်ချိန်(၁၀၀၀)ကျ သကြားထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အပေါ် ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ ထောက်ခံချက်ပေးပို့ပါရန် ရည်ညွှန်းချက်ပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ယင်းကိစ္စနှင့်ပတ်သက်၍ မူဆယ်ခရိုင်အုပ်ချုပ်ရေးမှူး၏မြေပြင်ကွင်းဆင်းစစ်ဆေးတင်ပြချက်အရ အောက်ပါအတိုင်းတွေ့ရှိရပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် မြို့ပြစီမံကိန်းနှင့်ညီညွတ်မှုရှိ/မရှိ

ရင်းနှီးမြှုပ်နှံမှုပြုမည့်သကြားစက်ရုံလျှောက်ထားသည့်မြေနေရာသည် လယ်ယာကဏ္ဍထက် စက်မှုကဏ္ဍပါဝင်မှုအချိုးအစားနည်းနေမှုအပေါ် တိုးတက်မြင့်မား လာရေးအတွက်တစ်ဖက်တစ်လမ်းမှဖြည့်ဆည်းရာရောက်သဖြင့် မြို့ပြစီမံကိန်းနှင့်ညီညွတ်မှုရှိပါသည်။

(ခ) ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်မှုရှိ/မရှိ

သကြားစက်ရုံအဆိုပြုနေရာသည် နမ့်အွမ်ကျေးရွာနှင့်အနည်းငယ်ဝေးသောမြေပြန့်တွင်ဆောင်ရွက်မည်ဖြစ်သဖြင့်ကျေးရွာ၏ပညာရေး၊ ကျန်းမာရေး၊စီးပွားရေးအပေါ် အကျိုးသက်ရောက်ထိခိုက်မှုရှိနိုင်မည့်အခြေအနေမတွေ့ရဘဲ ဒေသတွင်းရှိပြည်သူများအလုပ်အကိုင်အခွင့်အလမ်းရရှိနိုင်ခြင်း၊ကြံစိုက်ပျိုးခြင်းပြင့် တောင်သူများအကျိုးအမြတ်ရရှိစေပြီး ပြည်သူတို့၏ လူမှုစီးပွားရေးကို အထောက်အကူရရှိစေပါသည်။

D;/6 Nwe(40)

